(၅)/၁၉

# မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
## အမှုတွဲမှတ်တမ်း

ကုမ္ပဏီအမည် - City Rubberwood Co., Ltd.

လုပ်ငန်းအမည် - ရာဘာသစ်ခွဲသား ထုတ်လုပ်ခြင်းလုပ်ငန်း

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၇.၂.၂၀၁၉ | အမှုတွဲလက်ခံရရှိပါသည်။ | |
| ၂။ | ၇.၂.၂၀၁၉ | မွန်ပြည်နယ် အစိုးရအဖွဲ့ရုံး ၊ သစ်တောဦးစီးဌာန ၊ ပြည်နယ် စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန နှင့် ပြည်နယ် လျှပ်စစ်ဓါတ်အား လုပ်ငန်း ဖြန့်ဖြူးရေး သို့ သဘောထား မှတ်ချက်တောင်းခံခြင်း | |
| ၃။ | ၁၁.၂.၂၀၁၉ | ပြည်နယ်သစ်တောဦးစီးဌာနမှ သဘောထားပြန်ကြားခြင်း | |
| | ၁၃.၂.၂၀၁၉ | ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနမှ သဘောထားပြန်ကြားခြင်း | |
| | ၁.၃.၂၀၁၉ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ သဘောထားပြန်ကြားခြင်း | |
| | ၆.၃.၂၀၁၉ | ပြည်နယ်လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးရေးလုပ်ငန်းမှ သဘောထား ပြန်ကြားခြင်း | |
| | ၁.၄.၂၀၁၉ | ပြည်နယ် အစိုးရအဖွဲ့ရုံးမှ သဘောထားပြန်ကြားခြင်း | |
| ၄။ | | MIC သို့ တင်ပြခြင်း | |
| ၅။ | ၃၀.၄.၂၀၁၉ | ကော်မတီအစည်းအဝေးကျင်းပပြုလုပ်မည့်ရက်အား ကော်မတီဥက္ကဋ္ဌမှ ထံတင်ပြတောင်းခံခြင်း | |
| ၆။ | ၆.၅.၂၀၁၉ | MSIC သို့ အမှာစာများ ပြုစုတင်ပြခြင်း | |
| ၇။ | ၆.၅.၂၀၁၉ | အစည်းအဝေး ဖိတ်ကြားခြင်း | |
| ၈။ | ၉.၅.၂၀၁၉ | အစည်းအဝေး ကျင်းပပြုလုပ်ခြင်း | |

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
အမှုတွဲမှတ်တမ်း

ကုမ္ပဏီအမည် -

လုပ်ငန်းအမည် -

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၉။ | ၁၀.၅.၂၀၁၉ | အစည်းအဝေး မှတ်တမ်း ထုတ်ပြန်ခြင်း | |
| ၁၀။ | ၁၃.၅.၂၀၁၉ | အတည်ပြုမိန့်အား လက်မှတ်ရေးထိုး ဦးဆောင်ရေး ဥက္ကဋ္ဌထံ တင်ပြခြင်း | |
| ၁၁။ | ၁၄.၅.၂၀၁၉ | အတည်ပြုမိန့်အား ထုတ်ပေးခြင်း ၊ /ကျ ၅၀၀၀၀/- ပေးသွင်းခြင်း | |
| ၁၂။ | ၁၅.၅.၂၀၁၉ | အမှုတွဲများအား ရင်းနှီးမြှုပ်နှံမှုဌာနခွဲ [illegible] ကြီးကြပ်ရေးဌာနခွဲ သို့ ပေးပို့ခြင်း | |
| | | | |
| | | | |
| | | | |
| | | | |




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**

တတိယထပ်၊ မြို့နယ်စုပေါင်းရုံး၊ ရုံးကြီးလမ်း၊ ပန်းဘဲတန်းရပ်ကွက်၊ မော်လမြိုင်မြို့


တယ်လီဖုန်း- ၀၅၇-၂၀၂၃၃၉၅
ဖက်(စ်) - ၀၅၇-၂၀၂၃၃၈၅


စာအမှတ်၊ မရက / ၁ / နငသ /၂၀၁၉ ( ၀၈၂ )
ရက်စွဲ၊ ၂၀၁၉ခုနှစ် ၊ ဖေဖော်ဝါရီလ ၇ ရက်

သို့

မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူး
မွန်ပြည်နယ်သစ်တောဦးစီးဌာန

ညွှန်ကြားရေးမှူး
မွန်ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ပြည်နယ်ဦးစီးဌာနမှူး
မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာ
မွန်ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်း

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်း**

ရည် ညွှန်း ချက်။ **City Rubberwood Co., Ltd. ၏ ၇-၂-၂၀၁၉ ရက်စွဲပါ တင်ပြစာ**

၁။ City Rubberwood Co., Ltd. မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလော့ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၂၅/ O.S.S)၊ ကွင်းအမည်-ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ် (၇၉၃)၊ မြေဧရိယာ(၇.၃၀)ဧကတွင် ရာနှုန်းပြည့်မြန်မာနိုင်သားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသား ထုတ်လုပ်ပြီး ရာနှုန်းပြည့်ပြည်ပသို့တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံတည်ဆောက် ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာတင်ပြလာပါသည်။

Dcooo-meno

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၇၂ (ခ)အရ အတည်ပြုလျှောက်ထားလွှာအား လက်ခံရရှိသည့်နေ့ရက်မှ ရက်ပေါင်း (၃၀)အတွင်း စိစစ်ပြီး မွန်ပြည်နယ်ဝန်ကြီးချုပ်ဥက္ကဋ္ဌ အဖြစ်ပါဝင်သော မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြဆုံးဖြတ်၍ အတည်ပြုမိန့်ထုတ်ပေးရမည်ဖြစ်ပါသည်။

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ **တိုင်းဒေသကြီးနှင့်ပြည်နယ်အတွင်းဆောင်ရွက်မည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများအားစိစစ်ရာတွင် လိုက်နာကျင့်သုံးရမည့် လုပ်ထုံးလုပ်နည်း အပိုဒ် ၂၄ အရ " ကော်မတီသည် အတည်ပြုလျှောက်ထားလွှာအား စိစစ်ရာတွင် သတ်မှတ်ထားသည့်အချိန်ကာလ အတွင်းပြီးမြောက်ရန် အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းများနှင့်ဆွေးနွေးတိုင်ပင်နိုင်သည်** " ဟု ဖော်ပြပါရှိသဖြင့် အထက်ပါ **City Rubberwood Co., Ltd.** ၏ ရာဘာသစ်ခွဲသားစက်ရုံတည်ဆောက်၍ သစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်ပတ်သက်ပြီးသက်ဆိုင်ရာ ဌာန၏ဥပဒေလုပ်ထုံးလုပ်နည်း သဘောထားမှတ်ချက်အား ၂၀၁၉ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၈ ရက်နေ့ နောက်ဆုံးထားပြန်ကြားပေးနိုင်ပါရန် အတည်ပြုလျှောက်ထားလွှာတစ်စုံ ပူးတွဲ ပေးပို့ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

၄။ လုပ်ငန်းနှင့်စပ်လျဉ်း၍ ဦးကျော်စွာဟိန်း ၀၉-၄၅၄၅၆၀၆၀၀၀သို့ဆက်သွယ် ဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြင့်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို

City Rubberwood Co., Ltd.
ရုံးလက်ခံ
မျှောစာတွဲ

အကြောင်းအရာ။ City Rubberwood Co.,Ltd.မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - City Rubberwood Co.,Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | ဒေါ်ခင်သန့်ဇင်ဝင်း၊ ဒါရိုက်တာ |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလော့ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၇၉၃)၊ ကွင်းအမှတ် (၂၅/ OSS)၊ ကြေးတိုင်ပြင်ကွင်း |
| ၃။ | မြေပိုင်ရှင် | - ဒေါ်ခင်သန့်ဇင်ဝင်း၊ဒါရိုက်တာ |
| | မြေအကျယ်အဝန်း | - ၇.၃၀ ဧက |
| | အဆောက်အဦ အရေအတွက် | နှစ်ထပ်အဆောက်အဦ ၁လုံး<br>တစ်ထပ်အဆောက်အဦ ၃ လုံး<br>စုစုပေါင်း ၄ လုံး |
| | မြေငှားရမ်းခ | - ကုမ္ပဏီပိုင်မြေတွင် ဆောင်ရွက်သည်။ |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၃၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ | - ၆ လ |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - ကျပ် ၂၀၀၀.၀၀၀ သန်း |
| | **ထည့်ဝင်သည့်အမျိုးအစား** | |
| | (က) ငွေသား | - ကျပ်သန်း ၁၅.၀၀၀ |
| | (ခ) အဆောက်အဦ ကုန်ကျစရိတ် | - ကျပ်သန်း ၁၃၈၀.၀၀၀ |
| | (ဂ) ရုံးအသုံးအဆောင်ပစ္စည်း | - ကျပ်သန်း ၁၈.၄၀၀ |
| | (ဃ) ရုံးပရိဘောဂနှင့် လျှပ်စစ်ပစ္စည်း | - ကျပ်သန်း ၅၈၆.၆၀၀ |
| | **စုစုပေါင်း** | **- ကျပ်သန်း ၂၀၀၀.၀၀၀** |
| ၇။ | ရောင်းချမည့်နည်းစနစ် | ပြည်ပ ၁၀၀% |
| ၈။ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း | |

| | တစ်နှစ်ထုတ်လုပ်မှုအရေအတွက် (CBM) | ဈေးနှုန်း ( US$/ CBM ) |
|---|---|---|
| ရာဘာသစ်ခွဲသား | ၁၄၄၀၀ | - |

| | | |
|---|---|---|
| ၉။ | ဝန်ထမ်းခန့်ထားမှု | ပြည်တွင်း / ပြည်ပ<br>ဦးရေ ၁၇၁ ဦး / ၁၀ ဦး<br>အမြင့်ဆုံးလစာ ကျပ် ၅၀၀၀၀၀ / ကျပ် ၂၀၀၀၀၀၀<br>အနိမ့်ဆုံးလစာ ကျပ် ၁၅၀၀၀၀ / - |
| ၁၀။ | အခြားတင်ပြချက် | - မီးဘေးကာကွယ်မှုအစီအမံများ၊လုပ်ငန်းခွင်သာယာရေး၊ ဝန်ထမ်းသက်သာချောင်ချိရေးအတွက်ဆောင်ရွက်ထားရှိမည့် အစီအစဉ်များအား တင်ပြထားပါသည်။<br>- အတည်ပြုမိန့်ရရှိပါက ကုမ္ပဏီအနေဖြင့်သက်ဆိုင်ရာဌာနများ၏ လမ်းညွှန်ချက်များ၊တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းကတိဝန်ခံမှုပြု ထားပါသည်။<br>- ပြည်တွင်းဝန်ထမ်းများ အတွက် အနိမ့်ဆုံးလုပ်ခလစာဥပဒေ သတ်မှတ်ချက်နှင့်အညီ သတ်မှတ်ကျခံပေးမည် ဖြစ်ကြောင်း ကတိဝန်ခံချက် ဖော်ပြပါရှိပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - City Rubberwood Co., Ltd. သည် ကုမ္ပဏီမှတ်ပုံတင် အမှတ်-113078774 ဖြင့် ၃.၄.၂၀၁၈ ရက်နေ့တွင်မှတ်ပုံထား ထားကြောင်းတွေ့ရှိရပါသည်။<br>- ကုမ္ပဏီတွင် ဒါရိုက်တာအစုရှင် (၂)ဦးပါဝင်ပြီးကုမ္ပဏီ၏ အစု ရှယ်ယာ ၅၀% ကို ဒါရိုက်တာ ဒေါ်ခင်သန့်ဇင်ဝင်း ပိုင်ဆိုင် ကြောင်းတွေ့ရှိရပါသည်။<br>- ငွေကြေးပိုင်ဆိုင်မှု အထောက်အထားအဖြစ်(၅.၁.၂၀၁၉)ရက်နေ့ ထိကျပ် ၃၀.၀၀၀သန်း ရှိကြောင်း Global Treasure Bank Limited (Yay Branch) ၏ Bank Statement ဖော်ပြထား ပါသည်။ |

| | | |
|---|---|---|
| | | - မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလော့ကျေးရွာ အုပ်စု၊ ဦးပိုင်အမှတ်(၇၉၃)၊ ကွင်းအမှတ်(၂၅/ OSS)၊ ကြေးတိုင်ပြင်ကွင်း၊ မြေ (၇.၃၀)ကေသည် ရာဘာမြေ အမျိုးအစားဖြစ်ပြီး မူလပိုင်ရှင်ဦးညွန့်အောင် နှင့် ဒေါ်ခင်သောင်းထံမှ City Rubberwood Co.,Ltd.ဒါရိုက်တာဒေါ်ခင်သန့်ဇင်ဝင်းက ဝယ်ယူထားကြောင်း မြေအရောင်းအဝယ်စာချုပ်နှင့် ပုံစံ (၁၀၅)/ (၁၀၆) တင်ပြထားပါသည်။<br>- လုပ်ငန်းသည်ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ EIA ဆောင်ရွက်ရန်လိုအပ်သည့်စီမံကိန်း အမျိုးအစား နှင့်အရွယ်အစားတွင်ပါဝင်ခြင်းမရှိကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- လုပ်ငန်းအမျိုးအစားသည် ISIC 0220 ဖြစ်ပြီးMICအမိန့် ကြော်ငြာစာအမှတ်၊၁၃/၂၀၁၇ အပိုဒ်(၁)(ခ)အမှတ်စဉ် (၃ )အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပါသည်။<br>- လုပ်ငန်းတည်နေရာဖြစ်သော မွန်ပြည်နယ်၊ ရေးမြို့နယ် သည် MIC အမိန့်ကြော်ငြာစာအမှတ်၊ ၁၀/၂၀၁၇အရ ဇုန် (၂) တွင် ပါဝင်သည့်အတွက် ဥပဒေပုဒ်မ ၇၅(က)(၁)အရ ဝင်ငွေခွန် ကင်းလွတ်သက်သာခွင့် (၅)နှစ် ခွင့်ပြုနိုင်သောလုပ်ငန်းဖြစ် ကြောင်း စိစစ်တွေ့ရှိရပါသည်။ |



ပြည် နယ် ဦး စီး ဌာ န မှူး ရုံး
မွန် ပြည် နယ် စက် မှု ကြီး ကြပ် ရေး နှင့်
စစ် ဆေး ရေး ဦး စီး ဌာ န ၊ မော် လ မြိုင်မြို့
စာအမှတ်၊၁၅၁၅(၁-က)မပ-ဖွံ့ဖြိုး/၂၀၁၉(၈,၈၇)
ရက်စွဲ ၊ ၂၀၁၉ခုနှစ် ၊ဖေဖော်ဝါရီလ ၁၁ ရက်

သို့

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မော်လမြိုင်မြို့

အမှတ်စဉ် ၉၀၄
ရက်စွဲ ၁၃.၂.၂၀၁၉

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၇.၂.၂၀၁၉) ရက်စွဲပါ စာအမှတ်၊ မရက/ ၁/ နငသ /၂၀၁၉ (၀၀၂)

၁။ City Rubberwood Co.,Ltd သည်မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလော့ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၂၅/O.S.S.) ၊ ကွင်းအမည်-ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ်(၇၉၃) ၊ မြေဧရိယာ(၇.၃၀)ဧကေတွင် ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့်ရာဘာသစ်ခွဲသားထုတ်လုပ်ပြီး ရာနှုန်းပြည့်ပြည်ပသို့တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသား စက်ရုံတည်ဆောက်ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှဆောင်ရွက်ရမည့်လုပ်ငန်းများ နှင့်ပက်သက်၍ အောက်ပါအချက်များဆောင်ရွက်ရန်လိုပါသည်-

(က) စက်ရုံ၏ အဆောက်အဦနှင့်တည်နေရာသည် ပတ်ဝန်းကျင် ဘေးအန္တရာယ် ရှိနိုင်သည့်အခြေအနေ မရှိရန်လိုအပ်ပါသည်။

(ခ) မီးဘေးအန္တရာယ်ကင်းရှင်းရေးအတွက် မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များရေးဆွဲဆောင်ရွက်သွားရန်နှင့် အဆိုပါအစီအမံအတိုင်း ဖာတ်တိုက် လေ့ကျင့်သွားရန် လိုအပ်ပြီး မီးဘေးကာကွယ်ရေး ပစ္စည်းကိရိယာများ မီးသတ်ဆေးဗူး၊ မီးသတ်ရေကန်များ စနစ်တကျထားရှိဆောင်ရွက်သွား

ရန်နှင့်သက်ဆိုင်ရာဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင် အနှောင့်အယှက်မဖြစ်စေရေး နှင့် ညစ်ညမ်းမှုမရှိစေရေး အတွက်စက်ရုံလည်ပတ်စဉ်တွင် ထွက်ရှိလာသော အမှုန်အမွှား၊ စွန့်ပစ်ရေ၊ ဘေးထွက်ရာဘာသစ်တိုအပိုင်းအစများ၊ လွင့်စာမှုန့်များကြောင့်ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် စက်ရုံလုပ်သားများ၏ ကျန်းမာရေးမထိခိုက်စေရန် အတွက် စနစ်တကျစွန့်ပစ်ခြင်း၊ ထိန်းချုပ်ခြင်းများ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဃ) စက်ရုံအတွင်း လေဝင်လေထွက်ကောင်းရန်နှင့်စက်ရုံ၏ အမိုးများတွင်အမှုန် စုပ်ပန်ကာများ လုံလုံလောက်လောက်တပ်ဆင် ဆောင်ရွက်သွားရန်လိုအပ် ပါသည်။

(င) စက်ရုံ၏ထုတ်လုပ်မှုနည်းစဉ်များသည်စက်ရုံလုပ်သားများ နှင့်ပတ်ဝန်းကျင် တွင်နေထိုင်လျှက်ရှိသော ပြည်သူများ၏ ကျန်းမာရေးဘေးအန္တရာယ် ထိခိုက်မှု မရှိစေရေးဆောင်ရွက်ရန်လိုအပ်ပါသည်။

(စ) အသုံးပြုသော ကုန်ကြမ်းများသည် ပတ်ဝန်းကျင်ဘေးအန္တရာယ် ဖြစ်ပေါ် စေနိုင်ခြင်းမရှိရန် လိုအပ်ပါသည်။

(ဆ) တည်ဆဲဥပဒေများ ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ City Rubberwood Co., Ltd မှ ရာဘာသစ်ခွဲသားထုတ်လုပ်ပြီး ရာနှုန်းပြည့်ပြည်ပသို့ တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံတည်ဆောက် ဆောင်ရွက် ခွင့်ပြုပါရန် လျှောက်ထားလာခြင်း နှင့် ပတ်သက်၍ အထက်ပါအချက်များအား လိုက်နာ ဆောင်ရွက်မည်ဆိုပါက မွန်ပြည်နယ်စက်မှုကြီးကြပ်ရေး နှင့်စစ်ဆေးရေးဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

တင်ညို

ပြည်နယ်ဦးစီးဌာနမှူး

မိတ္တူကို-

- ရုံးလက်ခံ/မျှောစာတွဲ



ညွှန် ကြား ရေး မှူး ရုံး
သစ် တော ဦး စီး ဌာ န
မွန် ပြည် နယ်၊ မော် လ မြိုင် မြို့
စာအမှတ်၊ ၁၁၈၇ - ၉၀ / ၁(၇)၁
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဖေဖော်ဝါရီလ ၇ ရက်

၀၀၃
၁၁.၂.၂၀၁၉
၁၂:၀၀ နာရီ

သို့
ဥက္ကဋ္ဌ
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
တတိယထပ်၊ မြို့နယ်စုပေါင်းရုံး၊ ရုံးကြီးလမ်း
ပန်းဘဲတန်းရပ်ကွက်၊ မော်လမြိုင်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၊ ပန်းဘဲတန်းရပ်ကွက်၊ မော်လမြိုင်မြို့၏ ၇.၂.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက/ ၁ / နငသ / ၂၀၁၉(၀၀၂)

၁။ City Rubberwood Co.,Ltd မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလော့ ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၂၅/O.S.S)၊ကွင်းအမည်-ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ်(၇၉၃)၊ မြေ ဧရိယာ(၇.၃၀)ဧကတွင် ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ် ပြီး ရာနှုန်းပြည့် ပြည်ပသို့တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံ တည်ဆောက်ဆောင်ရွက်ခွင့် ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ လျှောက်ထားလွှာတင်ပြလာခြင်းနှင့်ပတ်သက်၍ သဘောထားမှတ်ချက်အား ၂၀၁၉ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၈ ရက်နေ့ နောက်ဆုံးထားပြန်ကြားပေးနိုင် ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ City Rubberwood Co.,Ltd သည် သစ်တောဦးစီးဌာနတွင် သစ်တောဥပဒေပုဒ်မ-၃၀၊ နည်းဥပဒေ-၈၉(က)အရ သစ်အခြေခံအသုံးပြုသည့်စက်ရုံ တည်ထောင်ရန်အတွက် လျှောက်ထားမှု မရှိသေးပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

(မင်းသိန်းမြင့်)
ညွှန်ကြားရေးမှူး

မိတ္တူကို
လက်ထောက်ညွှန်ကြားရေးမှူး၊ သစ်တောဦးစီးဌာန၊ မော်လမြိုင်-သထုံခရိုင်
ဦးစီးအရာရှိ၊ သစ်တောဦးစီးဌာန၊ ရေးမြို့နယ်
City Rubberwood Co.,Ltd
မျှောစာတွဲ
ရုံးလက်ခံ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်နယ်အစိုးရအဖွဲ့

မွန်ပြည်နယ်



စာအမှတ်၊ ၂၀၀ / ၄-၃/ အဖရ(မွန်)(၃၆၅ )

ရက် စွဲ ၊ ၂၀၁၉ ခုနှစ် ၊ မတ်လ ၃၀ ရက်

သို့

အတွင်းရေးမှူး

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၇-၂-၂၀၁၉) ရက်စွဲပါစာအမှတ်၊ မရက/ ၁/ နငသ/ ၂၀၁၉ (၀၀၂)

City Rubberwood Co.,Ltd မှ ရေးမြို့နယ်၊ ကလော့ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၂၅/ O.S.S) ၊ ကွင်းအမည်- ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ် (၇၉၃)၊ မြေဧရိယာ (၇.၃၀)ဧကတွင် ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ်ပြီး ရာနှုန်းပြည့်ပြည်ပသို့တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံတည်ဆောက်ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြလာခြင်းအပေါ် ရည်ညွှန်းပါစာဖြင့် သဘောထားတောင်းခံလာခြင်းနှင့်ပတ်သက်၍ (၂၁-၃-၂၀၁၉) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မွန်ပြည်နယ်အစိုးရအဖွဲ့၊ အစည်းအဝေးအမှတ်စဉ် (၁၀/ ၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၈)အရ ကန့်ကွက်ရန်မရှိကြောင်း အကြောင်းကြားပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)

(မြင့်သန်းဝင်း၊ ညွှန်ကြားရေးမှူး)

မိတ္တူကို

စီမံကိန်း၊ ဘဏ္ဍာရေး၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီး

✓ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

လှည့်လည်စာတွဲ

ရုံးလက်ခံ



ညွှန်ကြားရေးမှူးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
မွန်ပြည်နယ်၊ မော်လမြိုင်မြို့
စာအမှတ်၊ ၃၀၉ / ကကရ(လ) / ၂၀၁၉
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၇ ရက်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး
(ဝင်စာမှတ်ပုံတင်)
အမှတ်စဉ် ...... ၀၀၅
ရောက်ရက် ...... ၁၈.၃.၂၀၁၉
ရောက်အချိန် ...... ၁၀:၀၀နာရီ
လက်ခံသူလက်မှတ် ......

သို့

√ ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မွန်ပြည်နယ်

အကြောင်းအရာ။ **ရာဘာသစ်ခွဲသား စက်ရုံတည်ဆောက် ထုတ်လုပ်ရန်အတွက် သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၇.၂.၂၀၁၉)ရက်စွဲပါစာအမှတ်၊ မရက/၁/နငသ/၂၀၁၉(၀၀၂)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ City Rubberwood Co.,Ltd မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလော့ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၂၅/OSS)၊ ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ်(၇၉၃)၊ မြေဧရိယာ(၇.၃၀)ကေပေါ်တွင် ရာနှုန်းပြည့် မြန်မာနိုင်ငံ သားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ်ပြီး ရာနှုန်းပြည့် ပြည်ပသို့ တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံ တည်ဆောက်ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ လျှောက်ထားတင်ပြခြင်းအပေါ် ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ အဆိုပါရာဘာသစ်ခွဲသား စက်ရုံတည်ဆောက်ထုတ်လုပ်ရောင်းချရန်အတွက် ပတ်ဝန်းကျင်ဆိုင်ရာ သဘောထားမှတ်ချက်ပေးပါရန် မွန်ပြည်နယ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်း ကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ City Rubberwood Co.,Ltd မှ အဆိုပြုတင်ပြလာသော ရာဘာသစ်ခွဲသားစက်ရုံ တည်ဆောက်ထုတ်လုပ်ခြင်းလုပ်ငန်းများနှင့်ပတ်သက်၍ စိစစ်ရာအောက်ပါအတိုင်းတွေ့ရှိရပါသည်-

(က) City Rubberwood Co.,Ltd သည် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံသော လုပ်ငန်းဖြစ်ပြီး ရာဘာသစ်ခွဲသားထုတ်လုပ်၍ ပြည်ပသို့ ၁၀၀% တင်ပို့ရောင်းချမည်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအတွက် လိုအပ်သော ရေကို [illegible] တူးဖော်ပြီး ရယူသုံးစွဲသွားမည်ဖြစ်ပြီး လျှပ်စစ်ဓာတ်အားအတွက် [illegible] ဝန်ကြီးဌာနမှ 1000KVA Transformer (၁)လုံးတင်ပြလျှောက်ထား ဆောင်ရွက်သွားမည်ဖြစ်ပြီး မီးမရရှိသည့်အချိန်တွင် အရံမီးစက်အဖြစ် Generator [illegible]KVA(၁)လုံး အသုံးပြုဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဂ) ရာဘာသစ်ခွဲသားထုတ်လုပ်မှု အဆင့်ဆင့်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(၁) ရာဘာကုန်ကြမ်းသစ်လုံးအား ခွဲစိတ်ခြင်း၊

(၂) ဖိအားဖြင့် ဆေးစိမ်ခြင်း၊

(၃) အခြောက်ခံခြင်း၊

(၄) အရည်အသွေးစစ်ဆေးခြင်း၊

(၅) ထုတ်ပိုးခြင်း၊

(ဃ) ရာဘာသစ်ခွဲသားစက်ရုံ၏ အကျယ်သည် ၁၈၀'×၆၆'×၂၆'ရှိ Steel Structure အဆောက်အဦ(၁)လုံး၊ ၁၃၀'×၂၀'×၁၂' ရုံးအဆောက်အဦ(၁)လုံး၊ Story building ၉၀'×၅၀'×၁၂' Steel Structure အဆောက်အဦ(၁)လုံး၊ Rubber Clearing room ၂၀'×၄၀'×၁၂' အဆောက်အဦ(၁)လုံး ဆောက်လုပ်ထားကြောင်း တွေ့ရပြီး စက်ရုံ၏ ဘေးပတ်ဝန်းကျင်တွင် ရာဘာခြံများသာ တည်ရှိကြောင်း၊

(င) ရာဘာသစ်ခွဲသားစက်ရုံသည် တစ်ရက်လျှင် ကုန်ကြမ်းအဖြစ် ၄၀ ကုဗမီတာအထိ အသုံးပြုမည်ဖြစ်ကြောင်း၊

(စ) စက်ရုံအနေဖြင့် လျှပ်စစ်ဓာတ်အားအား ကိုယ်ပိုင်Transfomer 1000KVA ဖြင့်အသုံးပြုမည်ဖြစ်ပြီး အရန်မီးစက်အနေဖြင့် 500KVA(၁)လုံး အသုံးပြုမည်ဖြစ်ကြောင်း၊

(ဆ) အဆိုပြုလုပ်ငန်းမှ လုပ်ဆောင်၍ ရရှိလာသည့် နှစ်စဉ်အမြတ်ငွေမှ (၂%)အား CSR ရန်ပုံငွေအဖြစ် သုံးစွဲသွားမည်ဖြစ်ကြောင်း တင်ပြချက်အရ သိရှိရပါသည်။

၃။ ရာဘာသစ်ခွဲသားစက်ရုံလုပ်ငန်းများ လုပ်ဆောင်ရာတွင် အောက်ပါအချက်များကို ထည့်သွင်းဆောင်ရွက်သွားရန် လိုအပ်ပါသည်-

(က) သစ်ခွဲသားစက်ရုံလည်ပတ်စဉ်တွင် ထွက်ရှိလာသော အမှုန်အမွှား၊ စွန့်ပစ်ရေ၊ ဘေးထွက် ရာဘာသစ်တိုအပိုင်းအစများ၊ လွှစာမှုန့်များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် စက်ရုံ လုပ်သားများ၏ကျန်းမာရေး မထိခိုက်စေရန်အတွက် စနစ်တကျစွန့်ပစ်ခြင်း၊ ထိန်းချုပ်ခြင်းများ ဆောင်ရွက်သွားရန်၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် စက်ယန္တရားကြီးများ အသုံးပြု၍ သစ်လုံးသယ်ယူခြင်း၊ ခွဲစိတ်ခြင်းလုပ်ငန်းများတွင် ထွက်ရှိလာမည့် အခိုးအငွေ့များ၊ ဖုန်မှုန့်များနှင့် ဆူညံသံများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် သစ်အပိုင်းအစနှင့် ဓာတုစွန့်ပစ် ပစ္စည်းများကြောင့်လည်းကောင်း၊ သစ်အမှုန်အမွှားပျံ့လွင့်မှုကြောင့်လည်းကောင်း၊ ပတ်ဝန်းကျင်လေထု၊ မြေထုကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် (Mitigation Processess) လျော့နည်းသက်သာစေရေးအစီအစဉ်အနေဖြင့် ဆောင်ရွက်နိုင်ရေး စက်ကိရိယာများနှင့်ကုန်ထုတ်လုပ်မှုနည်းပညာများ အသုံးပြုဆောင်ရွက်ရန်၊

(ဂ) ဆေးရည်စိမ်ရာတွင် အသုံးပြုသော Boraxic Acid နှင့် Borax သည် လူကိုအန္တရာယ်မရှိသော်လည်း အဆိုပါ Chemical များအား စနစ်တကျ ကိုင်တွယ်အသုံးပြုခြင်းမရှိပါကကိုင်တွယ်အသုံးပြုသူ၏ မျက်စိထဲသို့ Chemical အမှုန်များ ဝင်ရောက်၍ ထိခိုက်မှုရှိနိုင်သဖြင့် အကာအကွယ်များဖြင့် ဆောင်ရွက်သွားရန်၊

(ဃ) မီးဘေး ကြိုတင်ကာကွယ်ရေးစီမံချက်များ ရေးဆွဲဆောင်ရွက်သွားရန်နှင့် အဆိုပါ အစီအမံအတိုင်းဖာတ်တိုက်လေ့ကျင့်သွားရန် လိုအပ်ပြီး မီးဘေးကာကွယ်ရေးပစ္စည်း ကိရိယာများ၊ မီးသတ်ဆေးဗူး၊ မီးသတ်ရေကန်များ စနစ်တကျထားရှိ ဆောင်ရွက်သွားရန်၊

(င) စက်ရုံအတွင်း လေဝင် လေထွက်ကောင်းရန်နှင့် စက်ရုံ၏အမိုးများတွင် အမှုန်စုပ်ပန်ကာများ လုံလုံလောက်လောက် တပ်ဆင်ဆောင်ရွက်သွားရန်၊

(စ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း နောက်ဆက်တွဲ(က)၊ အမှတ်စဉ်(၆၂)အရ သစ်စက်နှင့် သစ်အချောထည် ပစ္စည်းထုတ်လုပ်ခြင်းလုပ်ငန်းအတွက် တစ်နှစ်လျှင် ကုန်ကြမ်းသစ် ကုဗမီတာ ၃,၀၀၀နှင့်အထက်၊ ကုဗမီတာ ၅၀,၀၀၀ အောက် ၊ သစ်အချောထည်ပစ္စည်းထုတ်လုပ်ခြင်း တစ်နှစ်လျှင် ကုဗမီတာ ၁,၀၀၀နှင့်အထက်၊ ကုဗမီတာ ၁၅,၀၀၀အောက် လုပ်မည်ဆိုပါက ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်းပြုလုပ်ရန် ဟုပြဋ္ဌာန်းထားရှိပြီး စက်ရုံအနေဖြင့်တစ်နှစ်လျှင် ၁၄၄၀၀ ကုဗမီတာထုတ်လုပ်သဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း(IEE) ပြုလုပ်သွားရန် လိုအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ City Rubberwood Co.,Ltd မှ ရာဘာသစ်ခွဲသားစက်ရုံ တည်ဆောက်ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်သွားရန် လိုအပ်ပါကြောင်း သဘောထားပြန်ကြားပါသည်-

(က) ရာဘာသစ်ခွဲသားလုပ်ငန်းအတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (IEE)အစီရင်ခံစာကိုပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းနှင့်အညီအောက်ပါ အချက်များအတိုင်း ရေးဆွဲသွားရန်-

(ကက) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) အစီရင်ခံစာကို ဆောင်ရွက်မည့် အဖွဲ့အစည်း(သို့မဟုတ်)တတိယပုဂ္ဂိုလ်အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၃၃)နှင့်အညီ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြ၍ အတည်ပြုချက်ရယူရန်၊

(ခခ) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE)အစီရင်ခံစာတွင် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၃၄)နှင့်အညီ အများပြည်သူနှင့် တိုင်ပင် ဆွေးနွေးခြင်းဆိုင်ရာ လုပ်ငန်းစဉ်များအား ဆောင်ရွက်ရန်၊

(ဂဂ) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) အစီရင်ခံစာအား တင်ပြရာတွင် တင်ပြမည့် အစီအစဉ်အလိုက် လိုအပ်သည့် ပုံစံများ ဖြည့်စွက်၍ ပူးတွဲတင်ပြရန်၊ အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် စီမံကိန်းလုပ်ငန်း ဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများအား အလေးထားဆောင်ရွက်ရန်၊

(ခ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်အတွက် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ဃ) မီးဘေးလုံခြုံရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့်လုပ်သားများ သက်သာချောင်ချိရေးအစီအစဉ်များ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များအား ဆောင်ရွက်သွားရန်၊

(င) လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility – CSR)အတွက် အသားတင်အမြတ်ငွေ၏ (၂%)အား ထည့်ဝင်မှုအပါအဝင်ကတိကဝတ်များထားရှိပြီး ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများ ဆောင်ရွက်သွားရန်၊

(စ) တစ်နှစ်လျှင် ပျမ်းမျှအားဖြင့် ရာဘာသစ်ကုန်ချော ကုဗမီတာ ၁၄၄၀၀ ခန့် အနည်းဆုံး ထုတ်လုပ်မည်ဖြစ်၍ အစားထိုးရာဘာစိုက်ခင်းများ ထူထောင်သွားရန်၊

(ဆ) စီမံကိန်းအဆိုပြုသူသည် မွန်ပြည်နယ်အစိုးရအဖွဲ့နှင့် သက်ဆိုင်ရာဒေသခံပြည်သူများထံမှ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်သွားရန်၊

(အောင်အောင်လေး)

ညွှန်ကြားရေးမှူး

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

မွန်ပြည်နယ်

မိတ္တူကို

ဝန်ကြီး၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မွန်ပြည်နယ်

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ နေပြည်တော်

ရုံးလက်ခံ

မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန
လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း
ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာရုံး
မွန်ပြည်နယ်-မော်လမြိုင်မြို့

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု (ဝင်စာမှတ်ပုံတင်)
အမှတ်စဉ် ...
ရရှိရက်စွဲ ...
ရရှိအချိန် ...
လက်ခံသူလက်မှတ် ...

စာအမှတ်၊ ၄၃၁ / ၄အ-၂လ(မပ)/၂၀၁၉
ရက် စွဲ၊၂၀၁၉ခုနှစ်၊ဖေဖော်ဝါရီလ ( ၂၁)ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ ၁။ ဥက္ကဋ္ဌ၊ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၇.၂.၂၀၁၉)ရက်စွဲပါစာ အမှတ်၊ မရက/၁/နကသ/၂၀၁၉(၀၀၂)
၂။ City Rubberwood Co.,Ltd ၏ (၇.၂.၂၀၁၉)ရက်စွဲပါတင်ပြစာ

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလော့ကျေးရွာအုပ်စု၊ ကွင်းအမှတ်၊(၂၅/OSS)၊ ကွင်းအမည်- ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ် (၇၉၃)၊ မြေဧရိယာ(၇.၃၀)ဧကတွင် ရာနှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် City Rubberwood Co.,Ltd မှ ရာဘာသစ်ခွဲသားထုတ်လုပ်ပြီး ရာနှုန်းပြည့် ပြည်ပသို့တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံ တည်ဆောက်ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်း(၂)ပါစာဖြင့် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြခဲ့မှုအပေါ် ရည်ညွှန်း(၁)ပါစာဖြင့် ဌာန၏ လုပ်ထုံးလုပ်နည်း သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ City Rubberwood Co.,Ltd သည် ရေးမြို့နယ်တောင်ဘက်၊ ခေါဇာမြို့သို့သွားရာလမ်းမပေါ် ကလော့ကျေးရွာအစတွင်ရှိပြီး ဓာတ်အားရယူသုံးစွဲလိုပါက ကလော့ကျေးရွာသို့ ဓာတ်အား ပေးထားသော SEGEP Co.,Ltd ၏ 315kVA Diesel Generator (၁)လုံးမှ ဓာတ်အားရယူရန် ဝန်အားနိုင်နင်းမှုမရှိသဖြင့်ရေးမြို့သို့ ဓာတ်အားဖြန့်ဖြူးပေးထားသော မီးလင်းရေးကော်မတီ (မြတ်သူရကုမ္ပဏီ)နှင့် ဆက်သွယ်ညှိနှိုင်း ဆောင်ရွက်သွားရမည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

(ဝင်းဘို)
ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာ

**ဥက္ကဋ္ဌ**
**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**
**မွန်ပြည်နယ်-မော်လမြိုင်မြို့**

မိတ္တူကို
ရုံးလက်ခံ

ပြည် နယ် ဦး စီး ဌာ န မှူး ရုံး
မွန် ပြည် နယ် စက် မှု ကြီး ကြပ် ရေး နှင့်
စစ် ဆေး ရေး ဦး စီး ဌာ န ၊ မော် လ မြိုင်မြို့
စာအမှတ်၊၁၅၁၅(၁-က)မပ-ဖွံ့ဖြိုး/၂၀၁၉(၄၄၈၇)
ရက်စွဲ ၊ ၂၀၁၉ခုနှစ် ၊ဖေဖော်ဝါရီလ ၁၁ ရက်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး
(ပင်စာမှတ်ပုံတင်)
အမှတ်စဉ် ..... ၀၈၄ .....
ရရှိရက်စွဲ ..... ၁၃.၂.၂၀၁၉ .....
ရရှိအချိန် ..... ၄၂:၀၈ နာရီ .....
လက်ခံသူလက်မှတ် ..... [signature] .....

သို့

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မော်လမြိုင်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၇.၂.၂၀၁၉) ရက်စွဲပါ စာအမှတ်၊ မရက/ ၁/ နသေ /၂၀၁၉ (၀၀၂)

၁။ City Rubberwood Co.,Ltd သည်မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလော့ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၂၅/O.S.S.) ၊ ကွင်းအမည်-ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ်(၇၉၃) ၊ မြေဧရိယာ(၇.၃၀)ဧကတွင် ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့်ရာဘာသစ်ခွဲသားထုတ်လုပ်ပြီး ရာနှုန်းပြည့်ပြည်ပသို့တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံတည်ဆောက်ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှဆောင်ရွက်ရမည့်လုပ်ငန်းများ နှင့်ပက်သက်၍ အောက်ပါအချက်များဆောင်ရွက်ရန်လိုပါသည်-

(က) စက်ရုံ၏ အဆောက်အဦနှင့်တည်နေရာသည် ပတ်ဝန်းကျင် ဘေးအန္တရာယ်ရှိနိုင်သည့်အခြေအနေ မရှိရန်လိုအပ်ပါသည်။

(ခ) မီးဘေးအန္တရာယ်ကင်းရှင်းရေးအတွက် မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များရေးဆွဲဆောင်ရွက်သွားရန်နှင့် အဆိုပါအစီအမံအတိုင်း ဖာတ်တိုက်လေ့ကျင့်သွားရန် လိုအပ်ပြီး မီးဘေးကာကွယ်ရေး ပစ္စည်းကိရိယာများ မီးသတ်ဆေးဗူး၊ မီးသတ်ရေကန်များ စနစ်တကျထားရှိဆောင်ရွက်သွား

ရန်နှင့်သက်ဆိုင်ရာဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင် အနှောင့်အယှက်မဖြစ်စေရေး နှင့် ညစ်ညမ်းမှုမရှိစေရေး အတွက်စက်ရုံလည်ပတ်စဉ်တွင် ထွက်ရှိလာသော အမှုန်အမွှား၊ စွန့်ပစ်ရေ၊ ဘေးထွက်ရာဘာသစ်တိုအပိုင်းအစများ၊ လွှစာမှုန့်များကြောင့်ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် စက်ရုံလုပ်သားများ၏ ကျန်းမာရေးမထိခိုက်စေရန် အတွက် စနစ်တကျစွန့်ပစ်ခြင်း၊ ထိန်းချုပ်ခြင်းများ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဃ) စက်ရုံအတွင်း လေဝင်လေထွက်ကောင်းရန်နှင့်စက်ရုံ၏ အမိုးများတွင်အမှုန် စုပ်ပန်ကာများ လုံလုံလောက်လောက်တပ်ဆင် ဆောင်ရွက်သွားရန်လိုအပ်ပါသည်။

(င) စက်ရုံ၏ထုတ်လုပ်မှုနည်းစဉ်များသည်စက်ရုံလုပ်သားများ နှင့်ပတ်ဝန်းကျင် တွင်နေထိုင်လျှက်ရှိသော ပြည်သူများ၏ ကျန်းမာရေးဘေးအန္တရာယ် ထိခိုက်မှု မရှိစေရေးဆောင်ရွက်ရန်လိုအပ်ပါသည်။

(စ) အသုံးပြုသော ကုန်ကြမ်းများသည် ပတ်ဝန်းကျင်ဘေးအန္တရာယ် ဖြစ်ပေါ် စေနိုင်ခြင်းမရှိရန် လိုအပ်ပါသည်။

(ဆ) တည်ဆဲဥပဒေများ ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ City Rubberwood Co., Ltd မှ ရာဘာသစ်ခွဲသားထုတ်လုပ်ပြီး ရာနှုန်းပြည့်ပြည်ပသို့ တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံတည်ဆောက် ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်း နှင့် ပတ်သက်၍ အထက်ပါအချက်များအား လိုက်နာဆောင်ရွက်မည်ဆိုပါက မွန်ပြည်နယ်စက်မှုကြီးကြပ်ရေး နှင့်စစ်ဆေးရေးဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

တင်ညို
ပြည်နယ်ဦးစီးဌာနမှူး

မိတ္တူကို-

- ရုံးလက်ခံ/မျှောစာတွဲ

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**




တတိယထပ်၊ မြို့နယ်စုပေါင်းရုံး၊ ရုံးကြီးလမ်း၊ ပန်းဘဲတန်းရပ်ကွက်၊ မော်လမြိုင်မြို့

တယ်လီဖုန်း- ၀၅၇-၂၀၂၃၃၉၅ | စာအမှတ်၊ မရက / ၁ / နငသ / ၂၀၁၉ ( ၁၁၁ )

ဖက်(စ်) ၀၅၇-၂၀၂၃၃၈၅ | ရက်စွဲ၊ ၂၀၁၉ ခုနှစ် ၊ မေ လ ၆ ရက်

## မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ City Rubberwood Co., Ltd. ၏ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ်၍ ပြည်ပသို့ရာနှုန်းပြည့်တင်ပို့သည့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်း ကိစ္စ

၁။ City Rubberwood Co.,Ltd. မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလော့ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (၇၉၃)၊ ကွင်းအမှတ်(၂၅/O.S.S)၊ ကြေးတိုင်ပြင်ကွင်းရှိ မြေဧရိယာ (၇.၃၀)ကေတွင် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ်ပြီး ပြည်ပသို့ရာနှုန်းပြည့်တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံတည်ဆောက် ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာတင်ပြလာပါသည်။

၂။ City Rubberwood Co., Ltd. သည် ကုမ္ပဏီမှတ်ပုံတင်အမှတ်- 113078774 ဖြင့် ၃-၄-၂၀၁၈ရက်နေ့ တွင်မှတ်ပုံတင်ထားကြောင်း တွေ့ရှိရပါသည်။

၃။ City Rubberwood Co., Ltd. ၏ ငွေကြေးပိုင်ဆိုင်မှုအထောက်အထားအဖြစ်ကျပ် ၃၀.၀၀၀သန်းကျန်ရှိကြောင်း ၅-၂-၂၀၁၉ ရက်နေ့အထိ ကမ္ဘောဇရတနာဘဏ်လီမိတက်၊ ရေးဘဏ်ခွဲ ၏ Bank Statement တင်ပြထားပါသည်။

၄။ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလော့ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (၇၉၃)၊ ကွင်းအမှတ် (၂၅/ O.S.S)၊ ကြေးတိုင်ပြင်ကွင်းရှိ ရာဘာခြံမြေဧရိယာ (၇.၃၀)ကေ အနက်မှ (၄.၀၀)ကေ အားအခြားနည်းအသုံးပြုခွင့် လျှောက်ထားကြောင်း တင်ပြထားပါသည်။

၅။ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ **ကျပ်သန်း၂၀၀၀** ဖြစ်ပြီး အောက်ပါအတိုင်းဖော်ပြထားပါ သည်-

| | | | |
|---|---|---|---|
| (က) | ငွေသား | - | ၁၅.၀၀၀ (၀၀၀) |
| (ခ) | စက်ပစ္စည်းများ | - | ၁၃၈၀.၀၀၀ (၀၀၀) |
| (ဂ) | ရုံးပရိဘောဂနှင့်အသုံးအဆောင်ပစ္စည်း | - | ၁၈.၄၀၀ (၀၀၀) |
| (ဃ) | အဆောက်အဦကုန်ကျစရိတ် | - | ၅၈၆.၆၀၀ (၀၀၀) |
| | စုစုပေါင်း | - | ၂၀၀၀.၀၀၀ (၀၀၀) |

ကန့်သတ်

၆။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသက်တမ်းမှာ (၃၀)နှစ်ဖြစ်ပြီး အရင်းကြေကာလမှာ (၅)နှစ် (၁၀)လ ဖြစ်ပါသည်။ လုပ်ငန်းတည်ဆောက်ရေး ကာလ မှာ (၆)လဖြစ်ပါသည်။

၇။ စီးပွားရေးဆိုင်ရာတွက်ချက်မှုများအရ နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

**(ဆဋ္ဌမနှစ်)**

| | | | | |
|---|---|---|---|---|
| (က) | ကုမ္ပဏီ၏ဝင်ငွေ | - | ကျပ်သန်း | ၁၂၀၀.၀၀ |
| (ခ) | ကုမ္ပဏီ၏ အသုံးစရိတ် | - | ကျပ်သန်း | ၈၂၅.၀၀ |
| (ဂ) | ကုမ္ပဏီ၏ အသားတင်အမြတ် | - | ကျပ်သန်း | ၂၈၁.၂၅ |
| (ဃ) | နိုင်ငံတော်မှရရှိမည့် ဝင်ငွေခွန် | - | ကျပ်သန်း | ၉၃.၇၅ |
| (င) | နိုင်ငံတော်မှရရှိမည့် ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ်သန်း | ၂၁၄.၂၉ |
| (စ) | လူမှုရေးဆိုင်တာဝန်ယူမှု (CSR) | - | နှစ်စဉ်အမြတ်အပေါ် ၂% (တစ်နှစ် ၅.၆၂၅ သန်းထိ) | |

၈။ လုပ်ငန်းကြောင့် ဒေသခံ ပြည်တွင်းဝန်ထမ်း (၁၇၁) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်ပါသည်။ ဝန်ထမ်းများ၏ အမြင့်ဆုံးလစာသတ်မှတ်ချက် ( ၅၀၀၀၀၀ိ/)ဖြစ်ပြီး အနိမ့်ဆုံးလစာသတ်မှတ်ချက် (၁၅၀၀၀၀ိ)ဖြစ်ပါသည်။ အခွန်ဥပဒေနှင့်အညီ ဝန်ထမ်းများ၏ လစာမှ ဝင်ငွေခွန်ကို ကုမ္ပဏီမှ တာဝန်ယူ ကောက်ခံပေးသွင်းသွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက်နှင့် ပြည်တွင်းဝန်ထမ်းများ အတွက် အနိမ့်ဆုံးလုပ်ခလစာဥပဒေသတ်မှတ်ချက်နှင့်အညီ သတ်မှတ်ကျခံပေးမည်ဖြစ်ကြောင်း ကတိဝန်ခံချက်ဖော်ပြပါရှိပါသည်။

၉။ လုပ်ငန်းအတွက် နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်မှာ ယူနစ်(၅)သိန်း ဖြစ်ပြီး လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှ 1000 KVA ထရန်စဖော်မာတစ်လုံးအား တင်ပြလျှောက်ထား တပ်ဆင်ဆောင်ရွက်မည်ဖြစ်ကာ အရန်အဖြစ် 500 KVA GENERATOR(၁)လုံး အသုံးပြုမည်ဖြစ်ပါသည်။

၁၀။ နှစ်စဉ်ထုတ်လုပ်မှုပမာဏမှာ ရာဘာသစ်(၁၄၄၀၀ CBM) ဖြစ်ပါသည်။ လုပ်ငန်းအတွက် နှစ်စဉ် စက်သုံးဆီ လိုအပ်ချက်မှာ ဒီဇယ်(၇၂၀၀၀)ဂါလန်ဖြစ်ပြီး လုပ်ငန်းသုံးနှင့် မီးဘေးကာကွယ်ရေး အတွက် အဝီစိတွင်း(၂)တွင်း တူးဖော်ဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ စက်ရုံအဆောက်အဦပုံစံ၊ ထုတ်လုပ်မည့်နည်းစနစ်၊ မီးဘေးစီမံချက်နှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များ တင်ပြထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရန် အတည်ပြုမိန့်ရရှိပါက သက်ဆိုင်ဌာနများ၏ လမ်းညွှန်ချက်များ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက်ဖော်ပြပါရှိပါသည်။

၁၂။ ပါမစ်ရရှိပါက သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သစ်စက် ( Saw Mill )လိုင်စင်ရရှိရေးအတွက် လျှောက်ထားတင်ပြသွားမည်ဖြစ်ကြောင်း ဖော်ပြပါ ရှိပါသည်။

၁၃။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထားပြန်ကြားထားပါသည် -

(က) မွန်ပြည်နယ်သစ်တောဦးစီးဌာနမှ City Rubberwood Co., Ltd. ၏ ရာဘာသစ်ခွဲသားစက်ရုံ လည်ပတ်ရန်အတွက် မွန်ပြည်နယ်သစ်တောဦးစီး ဌာနတွင် သစ်တောဥပဒေပုဒ်မ-၃၀၊ နည်းဥပဒေ-၈၉(က)အရ သစ်အခြေခံအသုံးပြုသည့် စက်ရုံ တည်ထောင်ရန်အတွက် လျှောက်ထားမှုမရှိသေးကြောင်း အကြောင်းပြန်ကြားထားပါသည်။ (နောက်ဆက်တွဲ-က)

(အတည်ပြုမိန့်ရရှိပါက သစ်တောဦးစီးဌာန၏ သစ်စက် (Saw Mill) လိုင်စင် ရယူသွားမည်ဖြစ်ကြောင်း City Rubberwood Co.,Ltd.က ကတိဝန်ခံချက် ဖော်ပြထားပါသည်။)

(ခ) **မွန်ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်း**မှ အဆိုပါလုပ်ငန်းနှင့်ပတ်သက်၍ဓာတ်အားရယူသုံးစွဲလိုပါက ရေးမြို့သို့ ဓာတ်အားဖြန့်ဖြူးပေးထားသော မီးလင်းရေးကော်မတီ (မြတ်သူရကုမ္ပဏီ)နှင့် ဆက်သွယ်ညှိနှိုင်းဆောင်ရွက်သွားရမည်ဖြစ်ကြောင်း သဘောထားပြန်ကြားထားပါသည်။

(နောက်ဆက်တွဲ-ခ)

(ဂ) **မွန်ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန** က အောက်ပါအချက်များအား လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည် - (နောက်ဆက်တွဲ-ဂ)

(၁) ပတ်ဝန်းကျင်ဘေးအန္တရာယ် ဖြစ်နိုင်သည့်အခြေအနေ မရှိစေရေးဆောင်ရွက်ရန်၊
(၂) မီးဘေးအန္တရာယ်ကင်းရှင်းရေးအတွက် သက်ဆိုင်ရာဌာနစိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန်၊
(၃) ပတ်ဝန်းကျင်အနှောင့်အယှက်မဖြစ်ရေးနှင့်ညစ်ညမ်းမှုမရှိရေးဆောင်ရွက်ရန်၊
(၄) စက်ရုံတွင်တာဝန်ထမ်းဆောင်နေသော အလုပ်သမားများ၏ကျန်းမာရေး မထိခိုက်ရေး နှင့်အန္တရာယ်ကျရောက်မှုမရှိရေးဆောင်ရွက်ရန်၊
(၅) ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးထိခိုက်မှုမရှိစေရေး ဆောင်ရွက်ရန်၊
(၆) အသုံးပြုသောကုန်ကြမ်းများသည် ပတ်ဝန်းကျင်ဘေးအန္တရာယ် မဖြစ်ပေါ်စေရေး ဆောင်ရွက်ရန်၊
(၇) တည်ဆဲဥပဒေများအား လိုက်နာဆောင်ရွက်ရန်၊

(ဃ) **မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန** က အောက်ပါအချက်များအား လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထား ပြန်ကြားထားပါသည် - (နောက်ဆက်တွဲ-ဃ)

(၁) ရာဘာသစ်ခွဲသားလုပ်ငန်းအတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination- IEE) အစီရင်ခံစာကို ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းနှင့်အညီ ရေးဆွဲသွားရန်၊

(၂) ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan – EMP) ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ရန်၊

(၃) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်း၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီလိုက်နာကျင့်သုံး အကောင်အထည်ဖော်ရန်၊

(၄) မီးဘေးလုံခြုံရေးစီမံချက်၊ လုပ်သားများသက်သာချောင်ချိရေးအစီအစဉ်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားရှိမည့်အစီအစဉ်များအား ဆောင်ရွက်သွားရန်၊

(၅) လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR)အတွက် အသားတင်အမြတ်ငွေ၏ ၂% ထည့်ဝင်ရေးကတိကဝတ်ထားရှိပြီး ဒေသဖွံ့ဖြိုးရေးဆောင်ရွက်သွားရန်၊

(၆) အစားထိုးရာဘာစိုက်ခင်းများ ထူထောင်သွားရန်၊

(၇) မွန်ပြည်နယ်အစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများထံမှ ဆန္ဒသဘောထားရယူ သွားရန်၊

(င) **မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး**က အဆိုပါလုပ်ငန်းနှင့် ပတ်သက်ပြီး ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားထားပါသည်- (နောက်ဆက်တွဲ-င)

၁၄။ အဆိုပါလုပ်ငန်းနှင့်ပတ်သက်ပြီး အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည် -

(က) City Rubberwood Co., Ltd. ၏ ရာဘာသစ်ခွဲသား စက်ရုံတည်ဆောက်ထုတ်လုပ်ပြီး ပြည်ပသို့ ၁၀၀% တင်ပို့ ရောင်းချမည့် လုပ်ငန်းနှင့်ပတ်သက်၍ အဆိုပြုလုပ်ငန်း သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တားမြစ်/ကန့်သတ်ထားသည့် လုပ်ငန်းများ တွင်မပါဝင်ခြင်း၊ အစိုးရပိုင်မြေ/အဆောက်အဦအား အသုံးပြုထားမှုမရှိခြင်း၊ သဘာဝပတ်ဝန်းကျင်နှင့်ပြည်သူလူထုအားကြီးမားသော သက်ရောက်မှုဖြစ်ပေါ်နိုင်သည့်လုပ်ငန်းမဟုတ်ခြင်း၊ ရင်းနှီးမြှုပ်နှံမှုပမာ မြန်မာငွေကျပ်သန်း ၆၀၀၀အောက်တွင် ရှိခြင်းများကြောင့် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ ဆုံးဖြတ်နိုင်ပြီး အတည်ပြုမိန့် ထုတ်ပေးနိုင်သော လုပ်ငန်းဖြစ်ပါသည်။

(ခ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၇ အရ အတည်ပြုမိန့်ရရှိရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်လွှာတင်ပြလာခြင်းဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြစ်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇၊ အပိုဒ် (၁)(ခ)၊ အမှတ်စဉ် (၃)အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင်ပါဝင်ပါသည်။ လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်မည့် မွန်ပြည်နယ်၊ ရေးမြို့နယ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အမိန့်ကြော်ငြာစာအမှတ် ၁၀/၂၀၁၇ အရ ဇုန် (၂)တွင်ပါဝင်ပါသည်။ သို့ဖြစ်ရာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၅ (က)(ဂ) အရ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ် ခွင့်ပြုနိုင်သောလုပ်ငန်းဖြစ်ပါသည်။

(ဃ) ပြည်ပသို့ ရာနှုန်းပြည့်တင်ပို့သည့်လုပ်ငန်းဖြစ်သည့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၇ (ခ)အရ ကုန်ကြမ်းတင်သွင်းမှု အပေါ် ကင်းလွတ်ခွင့်/သက်သာခွင့် ရရှိခံစားနိုင်သောလုပ်ငန်းဖြစ်ပါသည်။

(င) အတည်ပြုမိန့်ရရှိပါက ကုမ္ပဏီအနေဖြင့် သက်ဆိုင်ဌာနများ၏ လမ်းညွှန်ချက်များ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံမှုပြုထားပါသည်။

(စ) အဆိုပြုလုပ်ငန်းသည် ဒေသခံများအတွက်အလုပ်အကိုင်အခွင့်အလမ်းများစွာဖန်တီးပေးနိုင်ပြီး ၁၀၀% ပြည်ပ ပို့ကုန်လုပ်ငန်းဖြစ်၍ နိုင်ငံခြားဝင်ငွေ ရရှိနိုင်မည့် လုပ်ငန်းဖြစ်ပါသည်။

(ဆ) နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂% ကို လူမှုရေးဆိုင်ရာတာဝန်ယူမှု (Corporate Social Responsibility-CSR)အဖြစ် သတ်မှတ်ဆောင်ရွက်မည်ဖြစ်ရာ ဒေသဖွံ့ဖြိုးတိုးတက်မှုအတွက် တစ်ဖက်တစ်လမ်းမှ ဆောင်ရွက်သွားစေနိုင်မည်ဖြစ်ပါကြောင်း စိစစ်တင်ပြအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလော့ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (၇၉၃)၊ ကွင်းအမှတ် (၂၅/O.S.S)၊ ကြေးတိုင်ပြင်ကွင်းရှိ မြေဧရိယာ (၇.၃၀)ဧက တွင် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ် အခြေခံအထပ်သားထုတ်လုပ်ပြီး ပြည်ပသို့ ၁၀၀% တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံတည်ဆောက် ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းအပေါ် **အတည်ပြုမိန့်** ထုတ်ပေးရန် သဘောတူ-မတူ။

ဉက္ကဋ္ဌ (ကိုယ်စား)
(မြင့်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ
မျှောစာတွဲ

နောက်ဆက်တွဲ (က)

ညွှန်ကြားရေးမှူးရုံး
သစ်တောဦးစီးဌာန
မွန်ပြည်နယ်၊ မော်လမြိုင်မြို့
စာအမှတ်၊ ၁၁၀၇ - ၉၀ / ဘ(ဂ)၁
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဖေဖော်ဝါရီလ ၇ ရက်

သို့

၁။ ဥက္ကဋ္ဌ
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
တတိယထပ်၊ မြို့နယ်စုပေါင်းရုံး၊ ရုံးကြီးလမ်း
ပန်းဘဲတန်းရပ်ကွက်၊ မော်လမြိုင်မြို့

၁၀၃
၁၁.၂.၂၀၁၉
၁၂:၀၀ နာရီ

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၊ ပန်းဘဲတန်းရပ်ကွက်၊ မော်လမြိုင်မြို့၏ ၇.၂.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက/ ၁ / နသေ / ၂၀၁၉(၀၀၂)

၁။ City Rubberwood Co.,Ltd မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလော့ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၂၅/O.S.S)၊ကွင်းအမည်-ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ်(၇၉၃)၊ မြေဧရိယာ(၇.၃၀)ဧကတွင် ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ်ပြီး ရာနှုန်းပြည့် ပြည်ပသို့တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံ တည်ဆောက်ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ လျှောက်ထားလွှာတင်ပြလာခြင်းနှင့်ပတ်သက်၍ သဘောထားမှတ်ချက်အား ၂၀၁၉ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၈ ရက်နေ့ နောက်ဆုံးထားပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ City Rubberwood Co.,Ltd သည် သစ်တောဦးစီးဌာနတွင် သစ်တောဥပဒေပုဒ်မ-၃၀၊ နည်းဥပဒေ-၈၉(က)အရ သစ်အခြေခံအသုံးပြုသည့်စက်ရုံ တည်ထောင်ရန်အတွက် လျှောက်ထားမှု မရှိသေးပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

(မင်းသိန်းမြင့်)
ညွှန်ကြားရေးမှူး

မိတ္တူကို
လက်ထောက်ညွှန်ကြားရေးမှူး၊ သစ်တောဦးစီးဌာန၊ မော်လမြိုင်-သထုံခရိုင်
ဦးစီးအရာရှိ၊ သစ်တောဦးစီးဌာန၊ ရေးမြို့နယ်
City Rubberwood Co.,Ltd
မျှောစာတွဲ
ရုံးလက်ခံ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန**
**လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း**
**ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာရုံး**
**မွန်ပြည်နယ်-မော်လမြိုင်မြို့**



စာအမှတ်၊ ၄၃၁ / ၄အ-၂လ(မပ)/၂၀၁၉
ရက် စွဲ၊၂၀၁၉ခုနှစ်၊ဖေဖော်ဝါရီလ ( ၂၁)ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ ၁။ ဥက္ကဋ္ဌ၊ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၇.၂.၂၀၁၉)ရက်စွဲပါစာ အမှတ်၊ မရက/၁/နကသ/၂၀၁၉(၀၀၂)
၂။ City Rubberwood Co.,Ltd ၏ (၇.၂.၂၀၁၉)ရက်စွဲပါတင်ပြစာ

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလော့ကျေးရွာအုပ်စု၊ ကွင်းအမှတ်၊(၂၅/OSS)၊ ကွင်းအမည်- ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ် (၇၉၃)၊ မြေဧရိယာ(၇.၃၀)ဧကတွင် ရာနှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် City Rubberwood Co.,Ltd မှ ရာဘာသစ်ခွဲသားထုတ်လုပ်ပြီး ရာနှုန်းပြည့် ပြည်ပသို့တင်ပို့နိုင်ရန် အတွက် ရာဘာသစ်ခွဲသားစက်ရုံ တည်ဆောက်ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်း(၂)ပါစာဖြင့် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြခဲ့မှုအပေါ် ရည်ညွှန်း(၁)ပါစာဖြင့် ဌာန၏ လုပ်ထုံးလုပ်နည်း သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ City Rubberwood Co.,Ltd သည် ရေးမြို့နယ်တောင်ဘက်၊ ခေါဇာမြို့သို့သွားရာလမ်းမပေါ် ကလော့ကျေးရွာအစတွင်ရှိပြီး ဓာတ်အားရယူသုံးစွဲလိုပါက ကလော့ကျေးရွာသို့ ဓာတ်အား ပေးထားသော SEGEP Co.,Ltd ၏ 315kVA Diesel Generator (၁)လုံးမှ ဓာတ်အားရယူရန် ဝန်အားနိုင်နင်းမှုမရှိသဖြင့်ရေးမြို့သို့ ဓာတ်အားဖြန့်ဖြူးပေးထားသော မီးလင်းရေးကော်မတီ (မြတ်သူရကုမ္ပဏီ)နှင့် ဆက်သွယ်ညှိနှိုင်း ဆောင်ရွက်သွားရမည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

(ဝင်းဘို)
ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာ

**ဥက္ကဋ္ဌ**
**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**
**မွန်ပြည်နယ်-မော်လမြိုင်မြို့**

မိတ္တူကို
ရုံးလက်ခံ

ပြည် နယ် ဦး စီး ဌာ န မှူး ရုံး
မွန် ပြည် နယ် စက် မှု ကြီး ကြပ် ရေး နှင့်
စစ် ဆေး ရေး ဦး စီး ဌာ န ၊ မော် လ မြိုင်မြို့
စာအမှတ်၊ ၁၅၁၅(၁-က)မပ-ဖွံ့ဖြိုး/၂၀၁၉(၈၄၇)
ရက်စွဲ ၊ ၂၀၁၉ခုနှစ် ၊ဖေဖော်ဝါရီလ ၁၁ ရက်

သို့

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မော်လမြိုင်မြို့



အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၇.၂.၂၀၁၉) ရက်စွဲပါ စာအမှတ်၊ မရက/ ၁/ နငသ /၂၀၁၉ (၀၀၂)

၁။ City Rubberwood Co.,Ltd သည်မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလော့ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၂၅/O.S.S.) ၊ ကွင်းအမည်-ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ်(၇၉၃) ၊ မြေဧရိယာ(၇.၃၀)ဧကတွင် ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့်ရာဘာသစ်ခွဲသားထုတ်လုပ်ပြီး ရာနှုန်းပြည့်ပြည်ပသို့တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံတည်ဆောက်ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှဆောင်ရွက်ရမည့်လုပ်ငန်းများ နှင့်ပက်သက်၍ အောက်ပါအချက်များဆောင်ရွက်ရန်လိုပါသည်-

(က) စက်ရုံ၏ အဆောက်အဦနှင့်တည်နေရာသည် ပတ်ဝန်းကျင် ဘေးအန္တရာယ်ရှိနိုင်သည့်အခြေအနေ မရှိရန်လိုအပ်ပါသည်။

(ခ) မီးဘေးအန္တရာယ်ကင်းရှင်းရေးအတွက် မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များရေးဆွဲဆောင်ရွက်သွားရန်နှင့် အဆိုပါအစီအမံအတိုင်း ဇာတ်တိုက်လေ့ကျင့်သွားရန် လိုအပ်ပြီး မီးဘေးကာကွယ်ရေး ပစ္စည်းကိရိယာများ မီးသတ်ဆေးဗူး၊ မီးသတ်ရေကန်များ စနစ်တကျထားရှိဆောင်ရွက်သွား

ရန်နှင့်သက်ဆိုင်ရာဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင် အနှောင့်အယှက်မဖြစ်စေရေး နှင့် ညစ်ညမ်းမှုမရှိစေရေး သစ်လွှစက်ရုံလည်ပတ်စဉ်တွင် ထွက်ရှိလာသော အမှုန်အမွှား၊ စွန့်ပစ်ရေ၊ သားလွှက်ရာဘာသစ်တိုအပိုင်းအစများ၊ လွှစာမှုန့်များကြောင့်ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် စက်ရုံလုပ်သားများ၏ ကျန်းမာရေးမထိခိုက်စေရန် အတွက် စနစ်တကျစွန့်ပစ်ခြင်း၊ ထိန်းချုပ်ခြင်းများ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဃ) စက်ရုံအတွင်း လေဝင်လေထွက်ကောင်းရန်နှင့်စက်ရုံ၏ အမိုးများတွင်အမှုန် စုပ်ပန်ကာများ လုံလုံလောက်လောက်တပ်ဆင် ဆောင်ရွက်သွားရန်လိုအပ် ပါသည်။

(င) စက်ရုံ၏ထုတ်လုပ်မှုနည်းစဉ်များသည်စက်ရုံလုပ်သားများ နှင့်ပတ်ဝန်းကျင် တွင်နေထိုင်လျှက်ရှိသော ပြည်သူများ၏ ကျန်းမာရေးဘေးအန္တရာယ် ထိခိုက်မှု မရှိစေရေးဆောင်ရွက်ရန်လိုအပ်ပါသည်။

(စ) အသုံးပြုသော ကုန်ကြမ်းများသည် ပတ်ဝန်းကျင်ဘေးအန္တရာယ် ဖြစ်ပေါ် စေနိုင်ခြင်းမရှိရန် လိုအပ်ပါသည်။

(ဆ) တည်ဆဲဥပဒေများ ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ City Rubberwood Co., Ltd မှ ရာဘာသစ်ခွဲသားထုတ်လုပ်ပြီး ရာနှုန်းပြည့်ပြည်ပသို့ တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံတည်ဆောက် ဆောင်ရွက် ခွင့်ပြုပါရန် လျှောက်ထားလာခြင်း နှင့် ပတ်သက်၍ အထက်ပါအချက်များအား လိုက်နာ ဆောင်ရွက်မည်ဆိုပါက မွန်ပြည်နယ်စက်မှုကြီးကြပ်ရေး နှင့်စစ်ဆေးရေးဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

တင်ညို
ပြည်နယ်ဦးစီးဌာနမှူး

မိတ္တူကို-

- ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (ဃ)

ညွှန်ကြားရေးမှူးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
မွန်ပြည်နယ်၊ မော်လမြိုင်မြို့
စာအမှတ်၊ ၃၀၉ /ကကရ(လ) / ၂၀၁၉
ရက်စွဲ၊၂၀၁၉ခုနှစ်၊ ဖေဖော်ဝါရီလ ၂၇ ရက်

သို့

၁၊ ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မွန်ပြည်နယ်

အကြောင်းအရာ။ **ရာဘာသစ်ခွဲသား စက်ရုံတည်ဆောက် ထုတ်လုပ်ရန်အတွက် သဘောထား မှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏(၇.၂.၂၀၁၉)ရက်စွဲပါစာအမှတ်၊ မရက/ ၁/နငသ/၂၀၁၉(၀၀၂)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ City Rubberwood Co.,Ltd မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလော့ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၂၅/OSS)၊ ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ်(၇၉၃)၊ မြေဧရိယာ(၇.၃၀)ဧကပေါ်တွင် ရာနှုန်းပြည့် မြန်မာနိုင်ငံ သားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ်ပြီး ရာနှုန်းပြည့် ပြည်ပသို့ တင်ပို့ရောင်းချရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံ တည်ဆောက်ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ လျှောက်ထားတင်ပြ ခြင်းအပေါ် ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ အဆိုပါရာဘာသစ်ခွဲသား စက်ရုံတည်ဆောက် ထုတ်လုပ်ရောင်းချရန်အတွက် ပတ်ဝန်းကျင်ဆိုင်ရာ သဘောထားမှတ်ချက်ပေးပါရန် မွန်ပြည်နယ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ ရည်ညွှန်းပါစာဖြင့် ပေးပို့ကြောင်း ကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ City Rubberwood Co.,Ltd မှ အဆိုပြုတင်ပြလာသော ရာဘာသစ်ခွဲသားစက်ရုံ တည်ဆောက်ထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ စိစစ်ရာအောက်ပါ အတိုင်းတွေ့ရှိရပါသည်-

(က) City Rubberwood Co.,Ltd သည် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံသော လုပ်ငန်း ဖြစ်ပြီး ရာဘာသစ်ခွဲသားထုတ်လုပ်၍ ပြည်ပသို့ ၁၀၀% တင်ပို့ရောင်းချမည်ဖြစ် ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအတွက် လိုအပ်သော ရေကို ရေတွင်း တူးဖော်ပြီး ရယူသုံးစွဲသွား မည်ဖြစ်ပြီး လျှပ်စစ်ဓာတ်အားအတွက် လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးရေးလုပ်ငန်းမှ 1000KVA Transformer (၁)လုံးတင်ပြလျှောက်ထား ဆောင်ရွက်သွားမည်ဖြစ်ပြီး မီးမရရှိသည့် အချိန်တွင် အရံမီးစက်အဖြစ် Generator 400KVA(၁)လုံး အသုံးပြုဆောင်ရွက် သွားမည်ဖြစ်ကြောင်း၊

(ဂ) ရာဘာသစ်ခွဲသားထုတ်လုပ်မှု အဆင့်ဆင့်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(၁) ရာဘာကုန်ကြမ်းသစ်လုံးအား ခွဲစိတ်ခြင်း၊

(၂) ဖိအားဖြင့် ဆေးစိမ်ခြင်း၊

(၃) အခြောက်ခံခြင်း၊

(၄) အရည်အသွေးစစ်ဆေးခြင်း၊

(၅) ထုတ်ပိုးခြင်း၊

(ဃ) ရာဘာသစ်ခွဲသားစက်ရုံ၏ အကျယ်သည် ၁၈၀'×၆၆'×၂၆'ရှိ Steel Structure အဆောက်အဦ(၁)လုံး၊ ၁၃၀'×၂၀'×၁၂' ရုံးအဆောက်အဦ(၁)လုံး၊ Story building ၉၀'×၅၀'×၁၂' Steel Structure အဆောက်အဦ(၁)လုံး၊ Rubber Clearing room ၂၀'×၄၀'×၁၂' အဆောက်အဦ(၁)လုံး ဆောက်လုပ်ထားကြောင်း တွေ့ရပြီး စက်ရုံ၏ ဘေးပတ်ဝန်းကျင်တွင် ရာဘာခြံများသာ တည်ရှိကြောင်း၊

(င) ရာဘာသစ်ခွဲသားစက်ရုံသည် တစ်ရက်လျှင် ကုန်ကြမ်းအဖြစ် ၄၀ ကုဗမီတာအထိ အသုံးပြုမည်ဖြစ်ကြောင်း၊

(စ) စက်ရုံအနေဖြင့် လျှပ်စစ်ဓာတ်အားအား ကိုယ်ပိုင်Transfomer 1000KVA ဖြင့်အသုံး ပြုမည်ဖြစ်ပြီး အရန်မီးစက်အနေဖြင့် 500KVA(၁)လုံး အသုံးပြုမည်ဖြစ်ကြောင်း၊

(ဆ) အဆိုပြုလုပ်ငန်းမှ လုပ်ဆောင်၍ ရရှိလာသည့် နှစ်စဉ်အမြတ်ငွေမှ (၂%)အား CSR ရန်ပုံငွေအဖြစ် သုံးစွဲသွားမည်ဖြစ်ကြောင်း တင်ပြချက်အရ သိရှိရပါသည်။

၃။ ရာဘာသစ်ခွဲသားစက်ရုံလုပ်ငန်းများ လုပ်ဆောင်ရာတွင် အောက်ပါအချက်များကို ထည့်သွင်း ဆောင်ရွက်သွားရန် လိုအပ်ပါသည်-

(က) သစ်ခွဲသားစက်ရုံလည်ပတ်စဉ်တွင် ထွက်ရှိလာသော အမှုန်အမွှား၊ စွန့်ပစ်ရေ၊ ဘေး ထွက် ရာဘာသစ်တိုအပိုင်းအစများ၊ လွှစာမှုန့်များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် စက်ရုံ လုပ်သားများ၏ကျန်းမာရေး မထိခိုက်စေရန်အတွက် စနစ်တကျစွန့်ပစ်ခြင်း၊ ထိန်းချုပ်ခြင်းများ ဆောင်ရွက်သွားရန်၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် စက်ယန္တရားကြီးများ အသုံးပြု၍ သစ်လုံးသယ်ယူ ခြင်း၊ ခွဲစိတ်ခြင်းလုပ်ငန်းများတွင် ထွက်ရှိလာမည့် အခိုးအငွေ့များ၊ ဖုန်မှုန့်များနှင့် ဆူညံသံများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ် ခြင်း အဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် သစ်အပိုင်းအစနှင့် ဓာတုစွန့်ပစ် ပစ္စည်းများကြောင့် လည်းကောင်း၊ သစ်အမှုန်အမွှားပျံ့လွင့်မှုကြောင့်လည်းကောင်း၊ ပတ်ဝန်းကျင်လေထု၊ မြေထုကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် (Mitigation Processess) လျှော့နည်း သက်သာစေရေးအစီအစဉ်အနေဖြင့် ဆောင်ရွက်နိုင်ရေး စက်ကိရိယာများနှင့်ကုန်ထုတ် လုပ်မှုနည်းပညာများ အသုံးပြုဆောင်ရွက်ရန်၊

(ဂ) ဆေးရည်စိမ်ရာတွင် အသုံးပြုသော Boraxic Acid နှင့် Borax သည် လူကိုအန္တရာယ် မရှိသော်လည်း အဆိုပါ Chemical များအား စနစ်တကျ ကိုင်တွယ်အသုံးပြုခြင်း မရှိပါကကိုင်တွယ်အသုံးပြုသူ၏ မျက်စိထဲသို့ Chemical အမှုန်များ ဝင်ရောက်၍ ထိခိုက်မှုရှိနိုင်သဖြင့် အကာအကွယ်များဖြင့် ဆောင်ရွက်သွားရန်၊

(ဃ) မိးဘေး ကြိုတင်ကာကွယ်ရေးစီမံချက်များ ရေးဆွဲဆောင်ရွက်သွားရန်နှင့် အဆိုပါ အစီအမံအတိုင်းဇာတ်တိုက်လေ့ကျင့်သွားရန် လိုအပ်ပြီး မီးဘေးကာကွယ်ရေးပစ္စည်း ကိရိယာများ၊ မီးသတ်ဆေးဗူး၊ မီးသတ်ရေကန်များ စနစ်တကျထားရှိ ဆောင်ရွက်သွားရန်၊

(င) စက်ရုံအတွင်း လေဝင် လေထွက်ကောင်းရန်နှင့် စက်ရုံ၏အမိုးများတွင် အမှုန်စုပ်ပန်ကာများ လုံလုံလောက်လောက် တပ်ဆင်ဆောင်ရွက်သွားရန်၊

(စ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း နောက်ဆက်တွဲ(က)၊ အမှတ်စဉ်(၆၂)အရ သစ်စက်နှင့် သစ်အချောထည် ပစ္စည်းထုတ်လုပ်ခြင်းလုပ်ငန်းအတွက် တစ်နှစ်လျှင် ကုန်ကြမ်းသစ် ကုဗမီတာ ၃,၀၀၀နှင့်အထက်၊ ကုဗမီတာ ၅၀,၀၀၀ အောက် ၊ သစ်အချောထည်ပစ္စည်းထုတ်လုပ်ခြင်း တစ်နှစ်လျှင် ကုဗမီတာ ၁,၀၀၀နှင့်အထက်၊ ကုဗမီတာ ၁၅,၀၀၀အောက် လုပ်မည်ဆိုပါက ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်းပြုလုပ်ရန် ဟုပြဋ္ဌာန်းထားရှိပြီး စက်ရုံအနေဖြင့်တစ်နှစ်လျှင် ၁၄၄၀၀ ကုဗမီတာထုတ်လုပ်သဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း(IEE) ပြုလုပ်သွားရန် လိုအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ City Rubberwood Co.,Ltd မှ ရာဘာသစ်ခွဲသားစက်ရုံ တည်ဆောက်ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်သွားရန် လိုအပ်ပါကြောင်း သဘောထားပြန်ကြားပါသည်-

(က) ရာဘာသစ်ခွဲသားလုပ်ငန်းအတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (IEE)အစီရင်ခံစာကိုပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းနှင့်အညီအောက်ပါအချက်များအတိုင်း ရေးဆွဲသွားရန်-

(ကက) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) အစီရင်ခံစာကို ဆောင်ရွက်မည့် အဖွဲ့အစည်း(သို့မဟုတ်)တတိယပုဂ္ဂိုလ်အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၃၃)နှင့်အညီ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြ၍ အတည်ပြုချက်ရယူရန်၊

(ခခ) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE)အစီရင်ခံစာတွင် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၃၄)နှင့်အညီ အများပြည်သူနှင့် တိုင်ပင် ဆွေးနွေးခြင်းဆိုင်ရာ လုပ်ငန်းစဉ်များအား ဆောင်ရွက်ရန်၊

(ဂဂ) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) အစီရင်ခံစာအား တင်ပြရာတွင် တင်ပြမည့် အစီအစဉ်အလိုက် လိုအပ်သည့် ပုံစံများ ဖြည့်စွက်၍ ပူးတွဲတင်ပြရန်၊ အစိုးရအဖွဲ့၏ ကြီးကြပ်ကွက်ကဲမှုဖြင့် စီမံကိန်းလုပ်ငန်း ဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများအား အလေးထားဆောင်ရွက်ရန်၊

(ခ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်အတွက် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုစီမံချက် (Environ - mental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ဃ) မီးဘေးလုံခြုံရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့်လုပ်သားများ သက်သာချောင်ချိရေးအစီအစဉ်များ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များအား ဆောင်ရွက်သွားရန်၊

(င) လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility – CSR)အတွက် အသားတင်အမြတ်ငွေ၏ (၂%)အား ထည့်ဝင်မှုအပါအဝင်ကတိကဝတ်များထားရှိပြီး ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများ ဆောင်ရွက်သွားရန်၊

(စ) တစ်နှစ်လျှင် ပျမ်းမျှအားဖြင့် ရာဘာသစ်ကုန်ချော ကုဗမီတာ ၁၄၄၀၀ ခန့် အနည်းဆုံး ထုတ်လုပ်မည်ဖြစ်၍ အစားထိုးရာဘာစိုက်ခင်းများ ထူထောင်သွားရန်၊

(ဆ) စီမံကိန်းအဆိုပြုသူသည် မွန်ပြည်နယ်အစိုးရအဖွဲ့နှင့် သက်ဆိုင်ရာဒေသခံပြည်သူများထံမှ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်သွားရန်၊

(အောင်အောင်လေး)

ညွှန်ကြားရေးမှူး

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

မွန်ပြည်နယ်

မိတ္တူကို

ဝန်ကြီး၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မွန်ပြည်နယ်

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ နေပြည်တော်

ရုံးလက်ခံ

မျှောစာတွဲ

နောက်ဆက်တွဲ (င)



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**ပြည်နယ်အစိုးရအဖွဲ့**

**မွန်ပြည်နယ်**

စာအမှတ်၊ ၂၀၀ / ၄-၃/ အဖရ(မွန်)(ပေ၆၄ )

ရက် စွဲ ၊ ၂၀၁၉ ခုနှစ် ၊ မတ်လ [illegible] ရက်

သို့

အတွင်းရေးမှူး

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၇-၂-၂၀၁၉) ရက်စွဲပါစာအမှတ်၊ မရက/၁/နငသ/၂၀၁၉ (၀၀၂)

City Rubberwood Co.,Ltd မှ ရေးမြို့နယ်၊ ကလော့ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၂၅/ O.S.S) ၊ ကွင်းအမည်- ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ် (၇၉၃)၊ မြေဧရိယာ (၇.၃၀)ဧကတွင် ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ်ပြီး ရာနှုန်းပြည့်ပြည်ပသို့တင်ပို့နိုင်ရန်အတွက် ရာဘာသစ်ခွဲသားစက်ရုံတည်ဆောက်ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြလာခြင်းအပေါ် ရည်ညွှန်းပါစာဖြင့် သဘောထားတောင်းခံလာခြင်းနှင့်ပတ်သက်၍ (၂၁-၃-၂၀၁၉) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မွန်ပြည်နယ်အစိုးရအဖွဲ့၊ အစည်းအဝေးအမှတ်စဉ် (၁၀/ ၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၈)အရ ကန့်ကွက်ရန်မရှိကြောင်း အကြောင်းကြားပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား )

(မြင့်သန်းဝင်း၊ ညွှန်ကြားရေးမှူး )

မိတ္တူကို

စီမံကိန်း၊ ဘဏ္ဍာရေး၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီး

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

လှည့်လည်စာတွဲ

ရုံးလက်ခံ




ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

## ငွေလက်ခံရန်အကြောင်းကြားစာ

အမှတ်စဉ်

ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇူ လ ၁၅ ရက်

အောက်ဖော်ပြပါ လျှောက်ထားသူထံမှ သက်ဆိုင်ရာလျှောက်ထားလွှာအတွက် ဖော်ပြပါ ဝန်ဆောင်ခအား လက်ခံပါရန်နှင့် ငွေရပြေစာမိတ္တူတစ်စောင်ကို ဌာနခွဲသို့ ပေးပို့ပေးပါရန် အကြောင်း ကြားအပ်ပါသည်-

၁။ လျှောက်ထားသူ၏ -

(က) အမည် ဒေါ်ခင်သန်းဝင်း

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် [illegible]

(ဂ) နေရပ်လိပ်စာ/ တယ်လီဖုန်း [illegible]

[illegible]

၂။ ရင်းနှီးမြှုပ်နှံသူ၏ -

(က) အမည် ဒေါ်ခင်သန်းဝင်း

(ခ) ကုမ္ပဏီအမည် City Rubberwood Co., Ltd.

(ဂ) လုပ်ငန်းအမျိုးအစား [illegible]

၃။ ပေးသွင်းမည့်ဝန်ဆောင်ခနှင့်စပ်လျဉ်း၍-

(က) လျှောက်ထားလွှာ ပုံစံအမှတ် ၅(၁)

(ခ) ဝန်ဆောင်ခနှုန်းထား(ဂဏန်းဖြင့်) ကျပ် ၅၀၀၀၀/-

(စာဖြင့်) ကျပ် ငါးသောင်းတိတိ

(ဂ) ငွေအမျိုးအစား

၁၀၀၀၀ x ၅ ၅၀၀၀၀/-

ရင်းနှီးမြှုပ်နှံမှုဌာနစု၊

၅၀၀၀၀/- ကျပ် (ငါးသောင်း ကျပ်) တိတိ ကို လက်ခံရရှိပါသည်။

(မင်းသိန်းဦး)
ငွေစာရင်းဌာနစု
လက်ထောက်ညွှန်ကြားရေးမှူး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ပြည်နယ်ဦးစီးမှူးရုံး၊ မွန်ပြည်နယ်၊



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ
# အတည်ပြုမိန့်

အတည်ပြုမိန့်အမှတ် မပန- ၀၀၄/၂၀၁၉ ၂၀၁၉ ခုနှစ် မေ လ ၁၄ ရက်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၅ (ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူအမည် ဒေါ်ခင်သန့်ဇင်ဝင်း

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ နယ်မြေ(၃)ရပ်ကွက်၊ အစင်ကျေးရွာ၊ ရေးမြို့နယ်၊ မွန်ပြည်နယ်

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ -

(၅) ဖွဲ့စည်းရာအရပ် -

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ (များ) ဦးပိုင်အမှတ်(၇၉၃)၊ ကွင်းအမှတ် (၂၅/ O.S.S)၊ ကြေးတိုင်ပြင်ကွင်း၊ ကလော့ကျေးရွာအုပ်စု၊ ရေးမြို့နယ်

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ -

(၉) နိုင်ငံခြားမတည်ငွေရင်း ယူဆောင်လာရမည့်ကာလ -

(၁၀) စုစုပေါင်းမတည်ငွေရင်းပမာဏ (ကျပ်) ကျပ် ၂၀၀၀.၀၀၀သန်း (ကျပ်နှစ်ထောင်သန်းတိတိ)

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ ၆ လ

(၁၂) အတည်ပြုမိန့်သက်တမ်း -

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့် ကုမ္ပဏီအမည် CITY RUBBERWOOD COMPANY LIMITED ( မြို့တော်ရာဘာသစ်လုပ်ငန်းကုမ္ပဏီလီမိတက်)

(ဒေါက်တာအေးဇံ)

ဥက္ကဋ္ဌ



Form (5-B)

# THE REPUBLIC OF THE UNION OF MYANMAR

## Mon State Investment Committee

## Endorsement

Endorsement No. MON - 004/2019    Date 14th May 2019

This endorsement is issued by the Mon State Investment Committee according to the Section 25, Sub-section (d) of the Myanmar Investment Law -

(1) Name of Investor DAW KHIN THANT ZIN WIN

(2) Citizenship MYANMAR

(3) Residence Address (3) Ward, Asin Village, Ye Township

(4) Name and Address of Principle Organization -

(5) Place of Incorporation -

(6) Type of business MANUFACTURING OF RUBBERWOOD SAWN TIMBER

(7) Place(s) of investment Project HOLDING NO (793), KWIN NO(25/ O.S.S), KYAY TAING PYIN KWIN, KALOT VILLAGE TRACT, YE TOWNSHIP

(8) Amount of Foreign Capital -

(9) Period for Foreign Capital to be brought in -

(10) Total Amount of Capital (Kyat) 2000.000 MILLION

(11) Construction Period 6 MONTHS

(12) Validity of Endorsement -

(13) Form of Investment WHOLLY MYANMAR OWNED

(14) Name of Company Incorporated in Myanmar CITY RUBBERWOOD COMPANY LIMITED

( Dr. AYE ZAN )

Chairman








ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ**

ဒုတိယထပ်၊ မြို့နယ်စုပေါင်းရုံး၊ ရုံးကြီးလမ်း၊ ပန်းဘဲတန်းရပ်ကွက်၊ မော်လမြိုင်မြို့

| | |
|---|---|
| တယ်လီဖုန်း - ၀၅၇-၂၀၂၃၃၉၅ | စာအမှတ်၊ မရက/၁/နသေ/၂၀၁၉ ([illegible]) |
| ဖက်စ် - ၀၅၇-၂၀၂၃၃၈၅ | ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ မေ လ ၁၄ ရက် |

အကြောင်းအရာ။ **City Rubberwood Company Limited၏ ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း အတည်ပြုလျှောက်ထားလွှာအပေါ် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ ၏ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ City Rubberwood Company Limited ၏ ၂၀၁၉ ခုနှစ် ဖေဖော်ဝါရီလ ၇ ရက် နေ့စွဲပါတင်ပြစာ

၁။ **City Rubberwood Company Limited** မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလေ့ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၂၅/O.S.S)၊ ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ် (၇၉၃)ရှိ မြေ (၇.၃၀)ကေတွင် ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာတင်ပြလာခြင်းအပေါ် ၂၀၁၉ ခုနှစ် မေ လ ၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂/၂၀၁၉) ကြိမ်မြောက်အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်နည်းဥပဒေများကို ကျင့်သုံးလျက် **City Rubberwood Company Limited** အား ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ် ၊ မပန-၀၀၄/၂၀၁၉ ကို ထုတ်ပေးလိုက်သည်။

၂။ City Rubberwood Company Limited အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည် -

(က) **City Rubberwood Company Limited** အနေဖြင့် ဤအတည်ပြုမိန့်အရ ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့် ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

ကန့်သတ်

(ခ) City Rubberwood Company Limited သည် ဤအတည်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် **ထုတ်လုပ်မှုရည်မှန်းချက်များ ကိုအနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရ မည်။

(ဂ) City Rubberwood Company Limited အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း(၂၀)တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏တာဝန်ဝတ္တရားများနှင့်အညီလိုက်နာ ဆောင်ရွက်ရမည်။

(ဃ) City Rubberwood Company Limited သည် လုပ်ငန်းဆောင်ရွက်ရာတွင် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်း ကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသော လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(င) City Rubberwood Company Limited သည် လုပ်ငန်းဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ်မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး စနစ်များကို ဝန်ခံကတိပြု ထားသည့်အတိုင်းစနစ်တကျ ထားရှိဆောင်ရွက်ရမည် ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက် ရမည်။

(စ) City Rubberwood Company Limited သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်း သက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့်လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဆ) City Rubberwood Company Limited သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်း ဥပဒေ ၁၉၆ အရနှစ်စဉ်ဘဏ္ဍာရေးနှစ်ကုန်ဆုံးပြီး နောက်သုံးလအတွင်း သတ်မှတ် ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်)ဆိုဒ်သို့ တင်ပြ ရမည်။

(ဈ) City Rubberwood Company Limited သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင်ရွက်နေစဉ် အတွင်း လုပ်ငန်း အစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ City Rubberwood Company Limited အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၆၅(ဃ)အရ သက်ဆိုင်သည့်ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန်လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ရမည်။

၄။ **City Rubberwood Company Limited** သည် လုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ၊ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့်အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန်လိုအပ်လျှင် သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီးမိတ္တူ(၅)စုံစီအား ကော်မတီသို့ပေးပို့ရမည်။

(ဒေါက်တာအေးဇံ)
ဥက္ကဋ္ဌ

CITY RUBBERWOOD COMPANY LIMITED

**ဖြန့်ဝေခြင်း**

ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မော်လမြိုင်မြို့
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

အကြောင်းအရာ။ City Rubberwood Co.,Ltd.မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - City Rubberwood Co.,Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | ဒေါ်ခင်သန့်ဇင်ဝင်း၊ ဒါရိုက်တာ |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလော့ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၇၉၃)၊ ကွင်းအမှတ် (၂၅/ OSS)၊ ကြေးတိုင်ပြင်ကွင်း |
| ၃။ | မြေပိုင်ရှင် | - ဒေါ်ခင်သန့်ဇင်ဝင်း၊ဒါရိုက်တာ |
| | မြေအကျယ်အဝန်း | - ၇.၃၀ ဧက |
| | အဆောက်အဦ အရေအတွက် | နှစ်ထပ်အဆောက်အဦ ၁လုံး<br>တစ်ထပ်အဆောက်အဦ ၃ လုံး<br>စုစုပေါင်း ၄ လုံး |
| | မြေငှားရမ်းခ | - ကုမ္ပဏီပိုင်မြေတွင် ဆောင်ရွက်သည်။ |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၃၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ | - ၆ လ |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - ကျပ် ၂၀၀၀.၀၀၀ သန်း |
| | **ထည့်ဝင်သည့်အမျိုးအစား** | |
| | (က) ငွေသား | - ကျပ်သန်း ၁၅.၀၀၀ |
| | (ခ) အဆောက်အဦ ကုန်ကျစရိတ် | - ကျပ်သန်း ၁၃၈၀.၀၀၀ |
| | (ဂ) ရုံးအသုံးအဆောင်ပစ္စည်း | - ကျပ်သန်း ၁၈.၄၀၀ |
| | (ဃ) ရုံးပရိဘောဂနှင့် လျှပ်စစ်ပစ္စည်း | - ကျပ်သန်း ၅၈၆.၆၀၀ |
| | **စုစုပေါင်း** | **- ကျပ်သန်း ၂၀၀၀.၀၀၀** |
| ၇။ | ရောင်းချမည့်နည်းစနစ် | ပြည်ပ ၁၀၀% |
| ၈။ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း | |

| | တစ်နှစ်ထုတ်လုပ်မှုအရေအတွက် (CBM) | ဈေးနှုန်း ( US$/ CBM ) |
|---|---|---|
| ရာဘာသစ်ခွဲသား | ၁၄၄၀၀ | - |

| | | |
|---|---|---|
| ၉။ | ဝန်ထမ်းခန့်ထားမှု | <br>ပြည်တွင်း / ပြည်ပ<br>ဦးရေ — ၁၇၁ ဦး / ၁၀ ဦး<br>အမြင့်ဆုံးလစာ — ကျပ် ၅၀၀၀၀၀ / ကျပ် ၂၀၀၀၀၀၀<br>အနိမ့်ဆုံးလစာ — ကျပ် ၁၅၀၀၀၀ / - |
| ၁၀။ | အခြားတင်ပြချက် | - မီးဘေးကာကွယ်မှုအစီအမံများ၊လုပ်ငန်းခွင်သာယာရေး၊ ဝန်ထမ်းသက်သာချောင်ချိရေးအတွက်ဆောင်ရွက်ထားရှိမည့် အစီအစဉ်များအား တင်ပြထားပါသည်။<br>- အတည်ပြုမိန့်ရရှိပါက ကုမ္ပဏီအနေဖြင့်သက်ဆိုင်ရာဌာနများ၏ လမ်းညွှန်ချက်များ၊တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းကတိဝန်ခံမှုပြု ထားပါသည်။<br>- ပြည်တွင်းဝန်ထမ်းများ အတွက် အနိမ့်ဆုံးလုပ်ခလစာဥပဒေ သတ်မှတ်ချက်နှင့်အညီ သတ်မှတ်ကျခံပေးမည် ဖြစ်ကြောင်း ကတိဝန်ခံချက် ဖော်ပြပါရှိပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - City Rubberwood Co., Ltd. သည် ကုမ္ပဏီမှတ်ပုံတင် အမှတ်-113078774 ဖြင့် ၃.၄.၂၀၁၈ ရက်နေ့တွင်မှတ်ပုံထား ထားကြောင်းတွေ့ရှိရပါသည်။<br>- ကုမ္ပဏီတွင် ဒါရိုက်တာအစုရှင် (၂)ဦးပါဝင်ပြီးကုမ္ပဏီ၏ အစု ရှယ်ယာ ၅၀% ကို ဒါရိုက်တာ ဒေါ်ခင်သန့်ဇင်ဝင်း ပိုင်ဆိုင် ကြောင်းတွေ့ရှိရပါသည်။<br>- ငွေကြေးပိုင်ဆိုင်မှု အထောက်အထားအဖြစ်(၅.၂.၂၀၁၉)ရက်နေ့ ထိကျပ် ၃၀.၀၀၀သန်း ရှိကြောင်း Global Treasure Bank Limited (Yay Branch) ၏ Bank Statement ဖော်ပြထား ပါသည်။ |

| | | |
|---|---|---|
| | | - မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလော့ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၇၉၃)၊ ကွင်းအမှတ်(၂၅/ OSS)၊ ကြေးတိုင်ပြင်ကွင်း၊ မြေ (၇.၃၀)ဧကသည် ရာဘာမြေ အမျိုးအစားဖြစ်ပြီး မူလပိုင်ရှင်ဦးညွန့်အောင် နှင့် ဒေါ်ခင်သောင်းထံမှ City Rubberwood Co.,Ltd.ဒါရိုက်တာဒေါ်ခင်သန့်ဇင်ဝင်းက ဝယ်ယူထားကြောင်း မြေအရောင်းအဝယ်စာချုပ်နှင့် ပုံစံ (၁၀၅)/ (၁၀၆) တင်ပြထားပါသည်။<br>- လုပ်ငန်းအမျိုးအစားသည် ISIC 0220 ဖြစ်ပြီး MICအမိန့်ကြော်ငြာစာအမှတ်၊၁၃/၂၀၁၇ အပိုဒ်(၁)(ခ)အမှတ်စဉ် (၃ )အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပါသည်။<br>- လုပ်ငန်းတည်နေရာဖြစ်သော မွန်ပြည်နယ်၊ ရေးမြို့နယ်သည် MIC အမိန့်ကြော်ငြာစာအမှတ်၊ ၁၀/၂၀၁၇အရ ဇုန် (၂) တွင် ပါဝင်သည့်အတွက် ဥပဒေပုဒ်မ ၇၅(က)(၀)အရ ဝင်ငွေခွန်ကင်းလွတ်သက်သာခွင့် (၅)နှစ် ခွင့်ပြုနိုင်သောလုပ်ငန်းဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်

**ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန**

**ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန**

**ငွေလက်ခံရန်အကြောင်းကြားစာ**

အမှတ်စဉ် ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ [illegible] လ [illegible] ရက်

အောက်ဖော်ပြပါ လျှောက်ထားသူထံမှ သက်ဆိုင်ရာလျှောက်ထားလွှာအတွက် ဖော်ပြပါ ဝန်ဆောင်ခအား လက်ခံပါရန်နှင့် ငွေရပြေစာမိတ္တူတစ်စောင်ကို ဌာနခွဲသို့ ပေးပို့ပေးပါရန် အကြောင်း ကြားအပ်ပါသည်-

၁။ **လျှောက်ထားသူ၏ -**

(က) အမည် [illegible]

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် [illegible]

(ဂ) နေရပ်လိပ်စာ/ တယ်လီဖုန်း [illegible]

[illegible]

၂။ **ရင်းနှီးမြှုပ်နှံသူ၏ -**

(က) အမည် [illegible]

(ခ) ကုမ္ပဏီအမည် City Rubberwood Co., Ltd.

(ဂ) လုပ်ငန်းအမျိုးအစား [illegible]

၃။ ပေးသွင်းမည့်ဝန်ဆောင်ခနှင့်စပ်လျဉ်း၍-

(က) လျှောက်ထားလွှာ ပုံစံအမှတ် [illegible]

(ခ) ဝန်ဆောင်ခနှုန်းထား(ဂဏန်းဖြင့်) ကျပ် ၅၀၀၀၀/-

(စာဖြင့်) ကျပ် ငါးသောင်းကျပ်

(ဂ) ငွေအမျိုးအစား

၁၀၀၀၀ x ၅ ၅၀၀၀၀/-

(ရင်းနှီးမြှုပ်နှံမှုဌာနမှ)

၅၀၀၀၀/- ကျပ် ( [illegible] ) ကျပ် တိတိကို

လက်ခံရရှိပါသည်။

ငွေစာရင်းဌာနမှ

ပုံစံ (၅-ခ)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ
# အတည်ပြုမိန့်

အတည်ပြုမိန့်အမှတ် မပန- ၀၀၄/၂၀၁၉ ၂၀၁၉ ခုနှစ် မေ လ ၁၄ ရက်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၅ (ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူအမည် ဒေါ်ခင်သန့်ဇင်ဝင်း

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ နယ်မြေ(၃)ရပ်ကွက်၊ အစင်ကျေးရွာ၊ ရေးမြို့နယ်၊ မွန်ပြည်နယ်

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ -

(၅) ဖွဲ့စည်းရာအရပ် -

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ (များ) ဦးပိုင်အမှတ်(၇၉၃)၊ ကွင်းအမှတ် (၂၅/ O.S.S) ၊ ကြေးတိုင်ပြင်ကွင်း၊ ကလော့ကျေးရွာအုပ်စု၊ ရေးမြို့နယ်

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ -

(၉) နိုင်ငံခြားမတည်ငွေရင်း ယူဆောင်လာရမည့်ကာလ -

(၁၀) စုစုပေါင်းမတည်ငွေရင်းပမာဏ (ကျပ်) ကျပ် ၂၀၀၀.၀၀၀သန်း (ကျပ်နှစ်ထောင်သန်းတိတိ)

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ ၆ လ

(၁၂) အတည်ပြုမိန့်သက်တမ်း -

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့် ကုမ္ပဏီအမည် CITY RUBBERWOOD COMPANY LIMITED ( မြို့တော်ရာဘာသစ်လုပ်ငန်းကုမ္ပဏီလီမိတက်)

(ဒေါက်တာအေးဇံ)

ဥက္ကဋ္ဌ

ကန့်သတ်




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ**

တတိယထပ်၊ မြို့နယ်စုပေါင်းရုံး၊ ရုံးကြီးလမ်း၊ ပန်းဘဲတန်းရပ်ကွက်၊ မော်လမြိုင်မြို့

တယ်လီဖုန်း - ၀၅၇-၂၀၂၃၃၉၅

ဖက်စ် - ၀၅၇-၂၀၂၃၃၈၅

စာအမှတ်၊ မရက/၁/နသေ/၂၀၁၉ ([illegible])

ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ မေ လ ၁၄ ရက်

အကြောင်းအရာ။ City Rubberwood Company Limited၏ ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း အတည်ပြုလျှောက်ထားလွှာအပေါ် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ ၏ဆုံးဖြတ်ချက်

ရည် ညွှန်း ချက်။ City Rubberwood Company Limited ၏ ၂၀၁၉ ခုနှစ် ဖေဖော်ဝါရီလ ၇ ရက် နေ့စွဲပါတင်ပြစာ

၁။ City Rubberwood Company Limited မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလေ့ဘကျေးရွာအုပ်စု၊ ကွင်းအမှတ်(၂၅/O.S.S)၊ ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ် (၇၉၃)ရှိ မြေ (၇.၃၀)ဧကတွင် ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာတင်ပြလာခြင်းအပေါ် ၂၀၁၉ ခုနှစ် မေ လ ၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂/၂၀၁၉) ကြိမ်မြောက်အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်နည်းဥပဒေများကို ကျင့်သုံးလျက် City Rubberwood Company Limited အား ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ် ၊ မပန-၀၀၄/၂၀၁၉ ကို ထုတ်ပေးလိုက်သည်။

၂။ City Rubberwood Company Limited အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည် -

(က) City Rubberwood Company Limited အနေဖြင့် ဤအတည်ပြုမိန့်အရ ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့် ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

ကန့်သတ်

(ခ) City Rubberwood Company Limited သည် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် **ထုတ်လုပ်မှုရည်မှန်းချက်များ ကိုအနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရ မည်။

(ဂ) City Rubberwood Company Limited အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း(၂၀)တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏တာဝန်ဝတ္တရားများနှင့်အညီလိုက်နာ ဆောင်ရွက်ရမည်။

(ဃ) City Rubberwood Company Limited သည် လုပ်ငန်းဆောင်ရွက်ရာတွင် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်း ကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသော လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(င) City Rubberwood Company Limited သည် လုပ်ငန်းဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ်မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး စနစ်များကို ဝန်ခံကတိပြု ထားသည့်အတိုင်းစနစ်တကျ ထားရှိဆောင်ရွက်ရမည် ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

(စ) City Rubberwood Company Limited သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့်လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဆ) City Rubberwood Company Limited သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၆ အရနှစ်စဉ်ဘဏ္ဍာရေးနှစ်ကုန်ဆုံးပြီး နောက်သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဓ) City Rubberwood Company Limited သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင်ရွက်နေစဉ် အတွင်း လုပ်ငန်း အစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ City Rubberwood Company Limited အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၆၅(ဃ)အရ သက်ဆိုင်သည့်ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန်လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ရမည်။

၄။ **City Rubberwood Company Limited** သည် လုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ၊ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့်အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန်လိုအပ်လျှင် သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီးမိတ္တူ(၅)စုံစီအား ကော်မတီသို့ပေးပို့ရမည်။

(ဒေါက်တာအေးဇံ)
ဥက္ကဋ္ဌ

CITY RUBBERWOOD COMPANY LIMITED

**ဖြန့်ဝေခြင်း**

ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မော်လမြိုင်မြို့
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

CITY RUBBERWOOD



ပုံစံ (၄-ခ)

# အတည်ပြုလျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ

.................... တိုင်းဒေသကြီး / ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ် ၊

ရက်စွဲ ၂၀ ခုနှစ်၊ လ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၇ နှင့်အညီ အောက်ဖော်ပြပါ အချက်များအား ဖြည့်စွက်၍ အတည်ပြုလျှောက်ထားလွှာကို တင်ပြလျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏

(က) အမည် ....................

(ခ) ကုမ္ပဏီမှတ်ပုံတင်အမှတ် သို့မဟုတ် ....................
ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ် ....................
အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ....................

(ဂ) နိုင်ငံသား ....................

(ဃ) နေရပ်လိပ်စာ/ မှတ်ပုံတင်ထားသည့်ကုမ္ပဏီလိပ်စာ ....................
....................

(င) တယ်လီဖုန်း /ဖက်စ် / အီးမေးလ်လိပ်စာ ....................

(စ) လုပ်ငန်းအမျိုးအစား(အသေးစိတ်ဖော်ပြပေးရန်) ....................

**မှတ်ချက်။** အောက်ပါအချက်များကိုပူးတွဲတင်ပြရန်-

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားမိတ္တူ

(၂) နိုင်ငံသားစိစစ်ရေးကတ်မိတ္တူနှင့်နိုင်ငံကူးလက်မှတ်မိတ္တူ

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏ -

(က) အမည် ....................

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ....................
(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ....................

(ဃ) နိုင်ငံသား ....................

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့်နေရပ်လိပ်စာ ....................
....................



Form (4 - B)

## Endorsement Application Form

To,

**Chairman**

**----------------Region/State Investment Committee**

Reference No.

Date.

I do apply for the endorsement in accordance with the Section 37 of the Myanmar Investment Law by furnishing the following particulars:

1. The Investor's :-
   (a) Name ..............................
   (b) Company Registration No/ ID No/ National Registration Card No /Passport ..............................
   (c) Citizenship ..............................
   (d) Address/ Address of Registered Office ..............................
   (e) Phone /Fax / E -mail: ..............................
   (f) Type of Business(to describe in detail) ..............................

   **Note:** The following documents need to be attached according to the above paragraph (1) :-
   (1) Company Registration Certificate (copy);
   (2) ID No/ National Registration Card (copy) and Passport (copy);

2. If the investor don't apply for endorsement by himself / herself, the applicant;
   (a) Name..............................
   (b) Name of contact person ..............................
   (if applicant is business organization)

   **Note**: describe with attachment of letter of legal representative
   (c) ID No./ National Registration Card No./Passport No. ..............................
   (d) Citizenship ..............................
   (e) Address in Myanmar :..............................
   (f) Phone / Fax : ..............................
   (g) E-mail : ..............................

ပုံစံ (၄-ခ)

အတည်ပြုလျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊

ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဖေဖော်ဝါရီ လ ၇ ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၇နှင့်အညီ အောက်ဖော်ပြပါအချက်များအား ဖြည့်စွက်၍ အတည်ပြုလျှောက်ထားလွှာကို တင်ပြလျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံသူ၏

(က) အမည် - ဒေါ်ခင်သန့်ဇင်ဝင်း

(ခ) ကုမ္ပဏီမှတ်ပုံတင်အမှတ် သို့မဟုတ်- ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ် အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ၁၀/ရမန(နိုင်)၁၁၅၉၄၄

(ဂ) နိုင်ငံသား မြန်မာ

(ဃ) နေရပ်လိပ်စာ/မှတ်ပုံတင်ထားသည့်ကုမ္ပဏီလိပ်စာ နယ်မြေ(၃)ရပ်ကွက် အစင်ကျေးရွာ၊ရေးမြို့နယ်၊ မွန်ပြည်နယ်။

(င) တယ်လီဖုန်း/ဖက်စ် /အီးမေးလ်လိပ်စာ - ၀၉၄၅၄၅၆၀၆၀၀

(စ) လုပ်ငန်းအမျိုးအစား (အသေးစိတ်ဖော်ပြပေးရန်) - ရာဘာသစ်ခွဲသား ထုတ်လုပ်ခြင်းလုပ်ငန်း

**မှတ်ချက် ။** အောက်ပါအချက်များကို ပူးတွဲတင်ပြရန် -
(၁)ကုမ္ပဏီမှတ်ပုံတင်အထောက်အထားမိတ္တူ။
(၂)နိုင်ငံသားစိစစ်ရေးကတ်မိတ္တူနှင့် နိုင်ငံကူးလက်မှတ်မိတ္တူ။

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင်လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏

(က) အမည် ------------------------------------------------------------

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ----------------------------------------
(လျှောက်ထားသူ၏ စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ် /နိုင်ငံကူးလက်မှတ်အမှတ် --------------

(ဃ) နိုင်ငံသား --------------------------------------------------------

(င) မြန်မာနိုင်ငံတွင် နေထိုင်သည့်နေရပ်လိပ်စာ ----------------------------
------------------------------------------------------------------

၄

(ဃ) တယ်လီဖုန်း/ဖက်စ် ---------------------------------------------

( င) အီးမေးလ်လိပ်စာ ---------------------------------------------

မှတ်ချက် ။ တရားဝင်ကိုယ်စားလှယ်လွှဲစာ ပူးတွဲတင်ပြရန်

၃။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်

☑ ရာခိုင်နှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်ခြင်း( ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

☐ အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့် ဆောင်ရွက်ခြင်း(စာချုပ်မူကြမ်းတင်ပြရန်)

မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး ၁၀၀%

အစိုးရဌာန၊ အစိုးရအဖွဲ့အစည်း၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး -

နိုင်ငံခြားသားရင်းနှီးမြှုပ်နှံသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး -

၄။ အစုရှယ်ယာ ၁၀%နှုန်းနှင့် အထက်ပိုင်ဆိုင်သော အစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု % |
|---|---|---|---|
| ၁။ | ဦးအောင်စိုးဝင်း | မြန်မာ | ၅၀% |
| ၂။ | ဒေါ်ခင်သန့်ဇင်ဝင်း | မြန်မာ | ၅၀% |

၅။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့် သက်ဆိုင်သော အချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း - ကျပ် ၅၀၀,၀၀၀,၀၀၀

(ခ) အစုရှယ်ယာအမျိုးအစား - ရိုးရိုး

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့်အစုရှယ်ယာပမာဏ - ၅၀၀၀၀ ရှယ်ယာ

မှတ်ချက်။ သင်းဖွဲ့မှတ်တမ်း/ သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ကုမ္ပဏီပုံအခြေခံစည်းမျဉ်းပူးတွဲတင်ပြရန်

၆။ မတည်ငွေရင်းနှင့် သက်ဆိုင်သည့်အချက်အလက်များ-

ကျပ် (သန်းပေါင်း )

(က) ပြည်တွင်းမှ ထည့်ဝင်သည့်မတည်ငွေရင်း ၂၀၀၀

ပမာဏ/ရာခိုင်နှုန်း

(ခ) နိုင်ငံခြားမှ ယူဆောင်လာမည့် မတည်ငွေရင်း ------------------------------------

ပမာဏ/ရာခိုင်နှုန်း ------------------------------------

စုစုပေါင်း ------------၂၀၀၀------------------------

၇။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း ---------(၃၀)နှစ်------------------

၈။ ဆောင်ရွက်မည့်စီးပွားရေးအဖွဲ့အစည်းနှင့်သက်ဆိုင်သော အချက်အလက်များ-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ(များ)/တည်နေရာ -မွန်ပြည်နယ်၊ ရေးမြို့နယ်၊ ကလော့ကျေးရွာ အုပ်စု ကွင်းအမှတ် (၂၅/OSS) ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ် (၇၉၃)၊ ဧရိယာ(၇. ၃၀)ဧက ။

(ခ) ရင်းနှီးမြှုပ်နှံမှု တန်ဖိုး/ပမာဏ --------ကျပ်သန်း ၂၀၀၀--------------

၉။ သက်ဆိုင်ရာအဖွဲ့အစည်းများ၏ ခွင့်ပြုချက်၊ လိုင်စင် ၊ပါမစ် စသည်တို့ ရရှိပြီးပါက ပူးတွဲတင်ပြရန် ။

၁၀။ လုပ်ငန်းစတင်ဆောင်ရွက်နေခြင်း ☐ ရှိ ၊ ☑ မရှိ ။

ရှိပါက လုပ်ငန်းဆောင်ရွက်မှုအခြေအနေကို ဖော်ပြပေးရန်။

--------------------------------------------------------------------------

--------------------------------------------------------------------------

၁၁။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ အောက်ဖော်ပြပါ လျှောက်ထားလွှာများကို တင်ပြလျှောက်ထားခြင်း ရှိ /မရှိ ဖော်ပြရန် ။

☐ မြေအသုံးပြုခွင့် လျှောက်ထားလွှာ

☐ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် လျှောက်ထားလွှာ

လျှောက်ထားသူလက်မှတ်

အမည် - ဒေါ်ခင်သန့်ဇင်ဝင်း

ရာထူး - Director

ဌာန - CITY RUBBERWOOD COMPANY LIMITED

Daw Khin Thent Zin Win
Director
CITY RUBBERWOOD COMPANY LIMITED

အထက်ဖော်ပြပါ လျှောက်ထားသူမှ ပေးအပ်သည့်အချက်အလက်များအားလုံးသည် မှန်ကန်မှုရှိပါကြောင်း အာမခံပါသည်။

ဤအတည်ပြုလျှောက်ထားလွှာတွင် အတည်ပြုမိန့် ထုတ်ပေးရန်အတွက် ကော်မရှင်မှ စိစစ်ရာ၌ လိုအပ်သည့်အချက်အလက်များကို လျှောက်ထားသူက ပေးအပ်ရန် ပျက်ကွက်ပါက အတည်ပြုလျှောက်ထားလွှာကို ငြင်းပယ်ခြင်း သို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့်နှောင့်နှေးကြန့်ကြာခြင်းတို့ ဖြစ်ပေါ်နိုင်ကြောင်း ကောင်းစွာသဘောပေါက်နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ချမှတ်မည့် စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လျှောက်ထားသူလက်မှတ်

(signature)

အမည် - ဒေါ်ခင်သန့်ဇင်ဝင်း

ရာထူး - Director

ဌာန - CITY RUBBERWOOD COMPANY LIMITED

Daw Khin Thant Zin Win
Director
CITY RUBBERWOOD COMPANY LIMITED

မြို့တော်ရာဘာသစ်လုပ်ငန်းကုမ္ပဏီလီမိတက်
ကလော့ကျေးရွာ၊ ရေးမြို့နယ်
Ph : 09.454560600, 09.428718123



သို့

ဥက္ကဋ္ဌ
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မော်လမြိုင်မြို့

ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၇ )ရက်

အကြောင်းအရာ။ **လုပ်ငန်းဆောင်ရွက်ထားရှိပုံနှင့် လုပ်ကိုင်ဆောင်ရွက်မည့်ကိစ္စများအား တင်ပြခြင်း**

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကလော့ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၇၉၃)၊ ကွင်းအမှတ်(၂၅/OSS)၊ ကြေးတိုင်ပြင်ကွင်းရှိ မြေဧရိယာ (၇. ၃၀)ဧကတွင် ပြည်တွင်းရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားစက်ရုံတည်ဆောက်ထားပါသည်။ ဒေသတွင်းရှိ အစေးမထွက်တော့သည့် ရာဘာပင်အို/ပင်ဟောင်းများ ထင်းအဖြစ်အသုံးပြုရာမှ တန်ဘိုးမြင့် ရာဘာခွဲသားထုတ်လုပ်ရန်၊ ရာဘာလုပ်ငန်းရှင်များ ဝင်ငွေတိုးရန်၊ ဒေသခံပြည်သူများအား အိမ်နီးချင်း နိုင်ငံများသို့ မိတကွဲ၊ ဖတကွဲ သွားရောက်အလုပ်လုပ်ကိုင်စရာမလိုပဲ မိသားစုနှင့်အတူ မကွဲမကွာ အလုပ်အကိုင်အခွင့်အလမ်းများရရှိစေရန် ရည်မှန်းပြီး ရာဘာခွဲသားစက်ရုံကို တည်ထောင်ထားပါသည်။ အစေးမထွက်တော့သည့် ရာဘာပင်အို/ပင်ဟောင်းများ ကုန်ကြမ်းများအား ခွဲစိတ်ကာ ရာဘာသစ်ခွဲသား များအား ပြည်ပသို့တင်ပို့ရောင်းချခြင်းလုပ်ငန်းကို လုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် လျှောက်ထားအပ်ပါသည်။

ကျွန်တော်များကုမ္ပဏီအနေဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်းကို လုပ်ကိုင်ရန်အတွက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ်သိန်း(၂၀၀၀၀)အား ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။ လုပ်ငန်းမှရရှိသော အမြတ်ငွေ များကိုလည်း မြန်မာနိုင်ငံအတွင်း အခြားခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီး ထားရန်ရည်ရွယ်ပါသည်။ ဝန်ထမ်းများနည်းပညာတိုးတက်မှုရရှိခြင်းနှင့် အလုပ်အကိုင်အခွင့်အလမ်းများ လည်းရရှိခြင်းတို့ကို အကျိုးဖြစ်ထွန်းစေမည်ဖြစ်ပါသည်။ စက်ရုံလုပ်ငန်းလည်ပတ်မည့် အစီအစဉ်များနှင့် ဆောင်ရွက်ရန်ရှိသည့် အကြောင်းအရာများမှာ အောက်ဖော်ပြပါအတိုင်းဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

ပြည်တွင်းရာဘာကုန်ကြမ်းရရှိရေးအတွက် မွန်ပြည်နယ်ဒေသအတွင်းရှိ အစေးမထွက်တော့သည့် ရာဘာပင်အို/ပင်ဟောင်းများအား ရာဘာထုတုံးရောင်းချသူများနှင့်ဆက်သွယ်၍ ရာဘာထုတုံးများကို စာချုပ်ချုပ်၍သော်လည်းကောင်း၊ တိုက်ရိုက်ဝယ်ယူခြင်းဖြင့်လည်းကောင်း၊ ဒေသတွင်းရှိ အစေးမထွက် တော့သည့် ရာဘာပင်အို/ပင်ဟောင်းများအား ဝယ်ယူပါမည်။ အဆိုပါရာဘာသစ်ကုန်ကြမ်းများအား သစ်ခွဲစက်အမှတ်ခွဲစိတ်ကာ VACUUM PRESSURE ဖြင့် KILN DRYER ၌ (၁၀)ရက်ဝန်းကျင်ခန့် အခြောက်ခံရပါမည်။ KILN DRYER မှ အခြောက်ခံကာထွက်ရှိလာသည့် ရာဘာခွဲသားများအား Export Qualityထုတ်ပိုးပါမည်။ ထုတ်ပိုးပြီးရာဘာခွဲသားများအား (၁၀၀)ရာခိုင်နှုန်းပြည်ပသို့

